မြန်မာနိုင်ငံ သားများရင်းနှီးမြှုပ်နှံမှုဌာနခွဲ

လုပ်ငန်းညှိနှိုင်းရေးဌာနခွဲ

ဝင်စာတင်ပြလွှာ

မဒဘ-၁၁၉၁ /၂၀၁၆
၂၆.၃.၂၀၁၆

ကုမ္ပဏီအမည် Minor Myanmar Co., Ltd.

တင်ပြသည့်လုပ်ငန်း BOI စနစ်ဖြင့် နိုင်ငံခြား အကျိုးတူ ပိုင်ဆိုင်ဆောင်ရွက်မှု လုပ်ငန်း

| ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|
| ၂၉.၁.၂၀၁၆ | ကာကာ / စနစ်တကျ ပြုစုပြီး အပေါ် မှ ဖြင့် ဝေ; မှ ဝင်ရောက်ရမည့် check list ဖြင့် စိစစ် လက်ခံပါသည်။ | |
| ၃.၂.၂၀၁၆ | PAT (၆/၂၀၁၆) ၈.၂.၂၀၁၆ အစည်းအဝေး အမှာစာ စာချွန်ထွက်ရှိသည်။ | |
| ၆.၂.၂၀၁၆ | Co; ကို အား မိတ္တူ Co; မှာ ဖွဲ့ပို့ ပေးပို့သည်။ | |
| ၈.၂.၂၀၁၆ | ပတတ / ရင်းနှီးမြှုပ်နှံမှု / ပတ်ဝန်းကျင် / ခရိုင် သို့ သဘောထား မှတ်ချက် တောင်းခံ စာ စာချွန်ထွက်ရှိသည်။ | |
| ၁၅.၂.၂၀၁၆ | PAT (၆/၂၀၁၆) ၈.၂.၂၀၁၆ အစည်းအဝေး ဆုံးဖြတ်ချက် စာချွန် ထွက်ရှိသည်။ | |
| ၁၉.၂.၂၀၁၆ | ပတ်ဝန်းကျင် / ခရိုင် သဘောထား မှတ်ချက် ပြန်ကြား စာ လက်ခံရရှိသည်။ | |
| ၂၃.၂.၂၀၁၆ | ပတ်ဝန်းကျင် / ခရိုင် သဘောထားနှင့် အညီ ပြင်ဆင် ဆောင်ရွက် Co; သို့ အကြောင်းကြားသည့် စာချွန်ထွက်ရှိသည်။ | |
| ၇.၃.၂၀၁၆ | ပတတ (ဝဒဒ) မှ သဘောထား မှတ်ချက် ပြန်ကြား စာ လက်ခံရရှိသည်။ | |
| ၁၀.၃.၂၀၁၆ | ပတတ သဘောထားနှင့် အညီ ပြင်ဆင် ဆောင်ရွက် Co; သို့ အကြောင်းကြားသည့် စာချွန်ထွက်ရှိသည်။ | |







# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၉၁/၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဒေါ်အေးအေးမြင့်

(ခ) **အဘ အမည်** ဦးတန်ချင်စွီး

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/လမတ (နိုင်) ဝ၂၃၉၁၉

(ဃ) **နေရပ်လိပ်စာ** အမှတ်(၉၉-အို)၊ သံလွင်လမ်း၊ (၁၀)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Minor Myanmar Company Limited (မိုင်နာ မြန်မာ ကုမ္ပဏီ လီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** BOT စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ကာကွယ်ရေးဦးစီးချုပ်(ကြည်း)၊ စစ်ထောက်ချုပ်ရုံးပိုင်၊ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၄/၅) ရှိ မြေဧရိယာ (၁၁.၃၀)ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၁၀၉၁၁.၀၀ သန်း (အမေရိကန်ဒေါ်လာ ၁.၀၈ သန်း အပါအဝင် စုစုပေါင်း ကျပ် တစ်သောင်း ကိုးရာ တစ်ဆယ့်တစ် သန်း တိတိ)

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ်

(ည) **ရင်းနှီးမြှုပ်နှံမှုခွင့်ပြုသည့်သက်တမ်း** ၅၀ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၇၉ /၂၀၁၆ (မနသ)
၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီ လီမိတက်)မှ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးမှ ပိုင်ဆိုင်သော ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၄/၅)ရှိ မြေဧရိယာ(၁၁.၃၀)ဧကတွင် BOTစနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ မတ်လ ၁၈ ရက်နေ့ တွင်ကျင်းပသည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၀/၂၀၁၆)ကြိမ်မြောက် အစည်းအဝေး သို့ တင်ပြခဲ့ရာ "ခွင့်ပြုမိန့်ထုတ်ပေးရန်"ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)အား BOTစနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၁၉၁/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)အနေဖြင့် ဤ ခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာ ခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေ ခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်း လွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ်ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ

လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျှော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျှော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်အား ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏတိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများတင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည်အသွေး စံချိန်စံညွှန်းများ၊

ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များ** ကို **အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထား၍ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ ကာကွယ်ရေး ဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးနှင့် Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီ လီမိတက်)တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော နှစ်ရှည်မြေငှားရမ်းခြင်း နှစ်ဖက်သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ ကနဦး နှစ် (၅၀)နှင့် သက်တမ်း တိုးမြှင့်မည့် ကာလမှာ(၁၀)နှစ် သက်တမ်း(၂)ကြိမ် ဖြစ်သည်။ ထိုသို့ စာချုပ်သက်တမ်း ကာလတိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက် ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်) သည် ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးသို့ မြေအသုံးချမှု ပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင် ကျပ် ၂၅၀၀ သိန်း (ကျပ် သိန်း နှစ်ထောင့်ငါးရာ တိတိ)နှုန်းဖြင့် မြေဧရိယာ (၁၁.၃၀) ဧက အတွက် စုစုပေါင်း ကျပ် ၂၈,၂၅၀ သိန်း (ကျပ် သိန်း နှစ်သောင်း ရှစ်ထောင် နှစ်ရာ့ ငါးဆယ် တိတိ)မြေအသုံးချမှု ပရီမီယံကြေးကို BOT စာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစ၍ အောက်ပါအတိုင်း (၄)ကြိမ် ခွဲ၍ ပေးသွင်းရမည်-

(က) ပထမအကြိမ် ၂၅ % ကို (၁)လအတွင်း

(ခ) ဒုတိယအကြိမ် ၂၅ % ကို (၈) လအတွင်း

(ဂ) တတိယအကြိမ် ၂၅ % ကို (၁၆) လအတွင်း

(ဃ) စတုတ္ထအကြိမ် ၂၅ % ကို (၂၄) လအတွင်း

၉။ နှစ်စဉ်မြေငှားရမ်းခအဖြစ် တစ်နှစ်စာအတွက် ကျပ် ၈၁,၄၁၆,၅၀၀ ကို ပေးသွင်းရမည်။ မြေငှားရမ်းခများကို(၁)နှစ်တစ်ကြိမ်ပေးသွင်းရမည်။

၁၀။ မြေငှားရမ်းခကို (၅)နှစ်လျှင် တစ်ကြိမ် ပြန်လည် ပြင်ဆင်သတ်မှတ်ရန်နှင့် စာချုပ် ပြန်လည်ချုပ်ဆိုသည့်အခါ ငှားရမ်းခနှုန်းထားကို ကာလဒေသပေါက်ဈေးနှင့် နှစ်ဖက်ညှိနှိုင်း၍ စာချုပ်ပါ မူလငှားရမ်းခ၏ ၁၅ % ထက် မပိုသော နှုန်းထားဖြင့် ပြင်ဆင်သတ်မှတ်ရမည်။

၁၁။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)သည် နိုင်ငံတကာအဆင့်မီဟိုတယ် စီမံကိန်းဆောင်ရွက်ရန် နှစ်ရှည်မြေငှားရမ်းခြင်း နှစ်ဖက်သဘောတူစာချုပ်ကို လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ ဟိုတယ်တည်ဆောက်ရေးကာလ ၂ နှစ် အတွင်း ပြီးစီးအောင် တည်ဆောက်ဖွင့်လှစ်ရမည်။

၁၂။ Minor Myanmar Company Limited (မိုင်နာ မြန်မာ ကုမ္ပဏီ လီမိတက်)သည် တည်ဆောက်ရေးကာလ ၂ နှစ် အတွင်း ရရှိသော ဝင်ငွေအပေါ် ထိုက်သင့်သော ဝင်ငွေခွန်ကို ဝင်ငွေခွန် ဥပဒေနှင့် အညီ ပေးဆောင်ရမည်။

၁၃။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးနှင့် Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်) တို့ ချုပ်ဆိုမည့် နှစ်ရှည် မြေငှားရမ်းခြင်း နှစ်ဖက်သဘောတူစာချုပ်ကိုလက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ တစ်လ အတွင်း ပေးဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅)စောင်စီကို ဤ ကော်မရှင်သို့ **မပျက် မကွက်**ပေးပို့တင်ပြရမည်။

၁၄။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)သည် ဟိုတယ်တည်ဆောက်ရေး၊ အခန်းများဖွဲ့စည်းရေးနှင့် လိုအပ်သော Facilities များ ထည့်သွင်းရေးအတွက် မြန်မာနိုင်ငံ ဟိုတယ်နှင့် ခရီးသွားလာရေး ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ၊ ဟိုတယ်နှင့် တည်းခိုရိပ်သာ လုပ်ငန်းလိုင်စင်ဆိုင်ရာ အမိန့်များပါဝင်သော ဟိုတယ်တည်ဆောက်ရေး ဆိုင်ရာ အခြေခံ လိုအပ်ချက်နှင့် စံနှုန်းများ (Basic Requirement and Criteria) ထက် မနိမ့်ကျစေရေး အတွက် အဆိုပါ ဥပဒေအမိန့်များကို ကြိုတင်ရယူလေ့လာ၍ ဆောင်ရွက်သွားရမည်။

၁၅။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)သည် ဟိုတယ်တည်ဆောက်ရေး နှင့်စပ်လျဉ်း၍ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော ကမ်းခြေ ခရီးစဉ်ဒေသ ရေရှည် တည်တံ့ခိုင်မြဲရေးအတွက် လိုက်နာဆောင်ရွက်ရန် အချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် သတ်မှတ် အမြင့်ပေထက် ပို၍ ထပ်ခိုးတင်ခြင်း၊ အမိုးထပ်တင်ခြင်းများ၊ တည်ဆောက်ရေးလုပ်ငန်းများတွင် အသုံးပြုရန် ကမ်းခြေသောင်များ၌ သဲများတူးခြင်းများ မပြုလုပ်ရန် သတ်မှတ်ချက်များအား လိုက်နာဆောင်ရွက်ရမည်။

၁၆။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)သည် နှစ်ရှည် မြေငှားရမ်းခြင်း နှစ်ဘက်သဘောတူစာချုပ် သက်တမ်းကာလအတွင်း ထိုလုပ်ငန်းအတွက် အခြား

ပုဂ္ဂိုလ်တစ်ဦးဦးအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်း နှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

၁၇။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)သည် လုပ်ငန်း ဆောင်ရွက်မှု ဘဏ်အာမခံငွေအဖြစ် တစ်နှစ်ငှားရမ်းခဖြစ်သော ကျပ် ၈၁,၄၁၆,၅၀၀ ကို ကာကွယ် ရေး ရငွေစာရင်းသို့ ပေးသွင်းရမည်။

၁၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၉။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)သည် လုပ်ငန်း ဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်းနှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ ဥပဒေ များ ပြဋ္ဌာန်း ပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများ နှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက် ရမည်။

၂၀။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)သည် အဆိုပြု လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများလျော့နည်း စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း (Initial Environmental Examination - IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၂၁။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)သည် အဆိုပြု လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ် အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီး ဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရ မည်။ ထို့အပြင် အလုပ်ရှင်နှင့်အလုပ်သမားဆက်ဆံရေးပြေလည်စေရန် အလေးထားဆောင်ရွက်ရ မည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၂၂။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)သည် ဤ ခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ် ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်

အတိုင်း စနစ်တကျ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။

၂၃။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်) သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ်စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာနည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၄။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်းအကောင်အထည်ဖော်မှု အခြေ အနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန် ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင် ပြီး (တစ်)လ အတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း/ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၆။ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)သည် မြန်မာ နိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာန/ အဖွဲ့ အစည်းများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ရ မည်။

၂၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရ မည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့်

ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှထုတ်ပေးမည် မဟုတ်သောနာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

၁၆/၃

(ဇေယျာအောင်)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၄ /မ-၁၅၂၉/၂၀၁၆ (၄၉၀-က)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၆ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

ရခိုင်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ သံတွဲမြို့

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လျှပ်စစ်စွမ်းအားစီမံရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံ ခရီးသွားလုပ်ငန်းအဖွဲ့ချုပ်

မန်နေဂျင်းဒါရိုက်တာ၊ Minor Myanmar Company Limited (မိုင်နာမြန်မာ ကုမ္ပဏီလီမိတက်)

DG 26/30/3/16 DG 16/28/3

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်

အကြောင်းအရာ။ **Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာတွင် BOT စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ခွင့်ပြုမိန့် ထုတ်ပေးရန်ကိစ္စ**

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၄/၅) ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေဧရိယာ(၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ် မတ်လ ၁၈ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏(၁၀ / ၂၀၁၆) အစည်းအဝေးသို့ တင်ပြမည်ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၉)၊ ပုဒ်မ ၁၈(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေဧရိယာ(၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံသူ သို့ ထုတ်ပေးမည့် **ခွင့်ပြုမိန့် နှင့် အမိန့် ကြော်ငြာစာ** တို့အား **ဥက္ကဋ္ဌ** မှ လက်မှတ်ရေးထိုးပေး နိုင်ပါရန် တင်ပြအပ်ပါသည်။

(အောင်နိုင်ဦး)
အတွင်းရေးမှူး

**ဥက္ကဋ္ဌ**

၃။

18/12

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်

အကြောင်းအရာ။ **Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာတွင် BOT စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန်အတွက် ခွင့်ပြုမိန့်ထုတ်ပေးရန် ကိစ္စ**

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၄/၅)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေဧရိယာ(၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ် မတ်လ ၁၈ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏(၁၀ / ၂၀၁၆) အစည်းအဝေးသို့ တင်ပြမည်ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၉)၊ ပုဒ်မ ၁၈(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေဧရိယာ(၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ရင်းနှီးမြှုပ်နှံသူ သို့ ထုတ်ပေးမည့် **ခွင့်ပြုမိန့် နှင့် အမိန့် ကြော်ငြာစာ(မူကြမ်း)**တို့အား အတည်ပြုပေးပါရန် ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | 24/3/16 | 24/3/16 | 24/3 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၃။ ဆက်လက်ဆိုင်ရာ ကော်မရှင်သို့ ထုတ်ပေးမည့် Permit နှင့် Decision တို့အား စိစစ်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

24/3/16
(ဒေါ်မစိုးခိုင်)

ညွှန်ကြားရေးမှူး၊

၄။ ခွင့်ပြုမိန့် နှင့် အမိန့် ကြော်ငြာစာ (မူကြမ်း)အား [illegible] သဘောတူ အတည်ပြုပေးပါရန် တင်ပြအပ်ပါသည်။

[illegible] 25/3

Minor Permit Ns INV-3

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ်သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၁ ရက်

M3-467
15/3

အကြောင်းအရာ။ **Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ငပလီကုန်း ကျေးရွာတွင် BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် စစ်ထောက်ချုပ်ရုံးမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကော်မရှင်၏ (၁၀/၂၀၁၆) အစည်းအဝေးသို့ တင်ပြမည့် အမှာစာ(**မူကြမ်း**)တို့ အားပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | 11/3/16 | 14/3/16 | 14/3 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၂။ MIC (10/2016) သို့ တင်ပြမည့် အမှာစာအား တင်ပြအပ်ပါသည်။

14/3/16
(ဒေါ်မာလာအောင်)

ညွှန်ကြားရေးမှူး

၃။ ကော်မရှင်ဝင်များထံ တင်ပြမည့် အမှာစာအား ဥက္ကဋ္ဌ လက်မှတ်ထိုးရန် တင်ပြအပ်ပါသည်။

15/3/16
(ဖြူဖြူ)

ဦးစီးချုပ်

၄။ ကာဝန်

တိုင်းမှူး

၅။

အထွေထွေအရပ်ရပ်-၁၆

ရုံးတွင်းစာအကျဉ်းချုပ်သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၄ ရက်

အကြောင်းအရာ။ **Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာတွင် BOT စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် စစ်ထောက်ချုပ်ရုံး မှတစ်ဆင့်အဆိုပြုချက်တင်ပြလာခြင်းအား ဥပဒေရှုထောင့်မှသုံးသပ်ပေး ပါရန် တင်ပြခြင်း ကိစ္စ**

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေဧရိယာ(၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ် မတ်လ ၁၈ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏(၁၀ / ၂၀၁၆) အစည်းအဝေးသို့ တင်ပြမည်ဖြစ်ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၉)၊ ပုဒ်မ ၁၈(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေ ဧရိယာ(၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ထုတ်ပေးမည့် **ခွင့်ပြုမိန့် နှင့် အမိန့်ကြော်ငြာစာ (မူကြမ်း)**တို့အား ဥပဒေရှုထောင့်မှ သုံးသပ်ပေးပါရန် ပြုစု တင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | (signature) 24/3/16 | (signature) 24/3/16 | (signature) 24/3 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၃။ သက်ဆိုင်ရာ ကော်မရှင်အစည်းအဝေးသို့ တင်ပြမည့် Permit & Decision များအား ဥပဒေရှုထောင့်မှ စိစစ်ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

(signature) 24/3/16

(ထားမစံရောင်ဦး)

ဥပဒေ ညွှန်ကြားရေးမှူး (P.L)

၄။ ကာ...

Mg. 5/23 (margin) P1-493 25/3/16

၁၁၈ 106/10/5

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၈ ရက်

အကြောင်းအရာ။ **ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြ ရန်ကိစ္စ**

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့သို့ (၈-၂-၂၀၁၆) ရက်စွဲပါစာဖြင့် သဘောထားတောင်းခံခဲ့ပါသည်။ **အလံ "၁"**

၂။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့မှ အဆိုပြုလုပ်ငန်းအပေါ် (၇-၃-၂၀၁၆) ရက်စွဲပါစာဖြင့် အောက်ပါအတိုင်း စိစစ်သဘောထား ပြန်ကြားလာပါသည်- **အလံ "၂"**

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များ ချမှတ်ခြင်း၊ တည်ဆောက်ခြင်း လုပ်ငန်းအဆင့်ဆင့်တို့ အတွက် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ယူပူးပေါင်း ဆောင်ရွက်မှု (Corporate Social Responsibility-CSR) အား အသားတင် အမြတ်ငွေ၏ ၂ % အား ထည့်ဝင်သွားရန် အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားရန်။

(ခ) လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်)ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း( Initial Environmental Examination-IEE) ကို ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးသားတင်ပြရန်။

(ဂ) လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန်နှင့် လူတို့၏ ကျန်းမာရေးကို မထိခိုက်စေရန် အတွက် ဆောင်ရွက်မည့် လုပ်ငန်း အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်နှင့် စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု (Environmental Management Plan-EMP)အား ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန မှ ပြဋ္ဌာန်းထားသောဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့် အညီ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

၃။ သို့ဖြစ်ပါ၍ Minor Myanmar Co., Ltd. မှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့၏ သဘောထားနှင့်အညီ ရေးဆွဲပြုစု၍ တင်ပြရန်အကြောင်းကြားမည့် **စာချော**တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | ကြီးကြပ်သူ |
|---|---|---|---|
| လက်မှတ် | [signature] 8/3/16 | [signature] 8/3/16 | [signature] 8/3 |
| အမည် | (စိုးသီဟ) | (ရွှေစင်ထက်) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၄။ သစ်တောဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အတိုင်း ဆောင်ရွက်နိုင်ရန်

ကုမ္ပဏီသို့ အကြောင်းကြားမည့်စာအား တင်ပြအပ်ပါသည်။

[signature]
8.3.16
(ဒေါ်[illegible])

ညွှန်ကြားရေးမှူး

၅။ ကုမ္ပဏီသို့ အကြောင်းကြားမည့် စာအား လက်မှတ်ရေးထိုး ပေးပါရန် တင်ပြအပ်ပါသည်။

[signature]
[illegible]
([illegible])

[illegible]




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ ၀၁-၆၅၈၁၂၉


စာအမှတ်၊ ရက- ၄/မ-၁၅၂၉ / ၂၀၁၆( ၃၆၅ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ် လ ၁၀ ရက်

အကြောင်းအရာ ။ **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ လိုက်နာဆောင်ရွက်ရန်ကိစ္စ**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၈-၂-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက- ၄/မ-၁၅၂၉ / ၂၀၁၆ (၁၇၇)

(၂) ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ (၇-၃-၂၀၁၆) ရက်စွဲပါ စာအမှတ် ၀၀၁/MIC(OSS)/ECD/၀၁(၆၂/၁၆)

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက် အမှတ်(၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ သို့ ရည်ညွှန်း(၁)ပါစာဖြင့် သဘောထားတောင်းခံခဲ့ပါသည်။

၂။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့မှ အဆိုပြုလုပ်ငန်းအပေါ် ရည်ညွှန်း(၂)ပါ စာဖြင့် အောက်ပါအတိုင်း စိစစ်သဘောထား ပြန်ကြားလာပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များ ချမှတ်ခြင်း၊ တည်ဆောက်ခြင်း လုပ်ငန်းအဆင့်ဆင့်တို့ အတွက် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ယူပူးပေါင်း ဆောင်ရွက်မှု (Corporate Social Responsibility-CSR)အား အသားတင်အမြတ်ငွေ၏ ၂ % အား ထည့်ဝင်သွားရန် အပါအဝင်ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားရန်။

(ခ) လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်)ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်

ခြင်း( Initial Environmental Examination-IEE) ကို ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးသားတင်ပြရန်။

(ဂ) လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန်နှင့် လူတို့၏ ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်၊ စွန့်ပစ် ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်နှင့် စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု (Environmental Management Plan-EMP)အား ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များ၊ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန မှ ပြဋ္ဌာန်းထားသောဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့် အညီ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

၃။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၊ ရင်းနှီး မြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက် မည့် အစီအစဉ်ကို ကော်မရှင်သို့ ပြန်လည်တင်ပြပေးရန် အကြောင်းကြားပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ဆန်းမြင့် ၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

**Minor Myanmar Co., Ltd.**

မိတ္တူကို

စစ်ထောက်ချုပ်ရုံး
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

အဖွဲ့ခေါင်းဆောင်
ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန
One Stop Services အဖွဲ့

ရုံးလက်ခံ/ မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၁၁/MIC(OSS)/ECD/၀၁([illegible])
ရက် စွဲ ၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Minor Myanmar Co.,Ltd မှ BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၂၉/ ၂၀၁၆(၁၇၇)

၁။ Minor Myanmar Co.,Ltd မှ ရခိုင်ပြည်နယ်သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဦးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင်မြေ ၁၁.၃၀ ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့်သက်တမ်းတိုး (၁၀)နှစ်(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၂)နှစ်ဖြစ်ကြောင်း၊ Deluxe (၄၀)ခန်း၊ Beach Front Villa (၂၆)ခန်း၊ Pool Suite Villa(၁၅)ခန်းနှင့် Presidential Villa(၁)ခန်း၊ စုစုပေါင်း(၈၂)ခန်းကိုဖွဲ့စည်းတည်ဆောက်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများ သက်သာချောင်ချိရေးနှင့်သာယာပျော်ရွှင်ရေးအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုအစီအစဉ်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးဆိုင်ရာတာဝန်ယူပူးပေါင်းဆောင်ရွက်မှု( Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်သွင်းအသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ဆောက်လုပ်

ရေးလုပ်ငန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများနှင့်ရေဆိုးများအား ပတ်ဝန်းကျင်မထိခိုက်စေရန် စွန့်ပစ်ပစ္စည်းအမျိုးအစားအလိုက် သတ်မှတ်နေရာများတွင် စနစ်တကျစွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် သန့်စင်ခန်းများ အလုံအလောက်ထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ ရေနုတ်မြောင်းများမှ အနံ့အသက်များမရှိစေရေး ရေနုတ်မြောင်းများကို ရေစီးရေလာကောင်းမွန်အောင်ပြုပြင်ခြင်းလုပ်ငန်းများဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ Minor Myanmar Co.,Ltd မှ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းများဆောင်ရွက်ခြင်းကြောင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံးစက်/ ယာဉ်ယန္တရားများမှ ထွက်ရှိမည့် ဆူညံသံများ၊ စက်ဆီ၊ ချောဆီ၊ အမဲဆီများကြောင့် ပတ်ဝန်းကျင်ရေထု၊ မြေထု၊ လေထုညစ်ညမ်းမှုများဖြစ်ပေါ်လာနိုင်ခြင်း၊ ဟိုတယ်လုပ်ငန်းများလည်ပတ်ချိန်တွင် ထွက်ရှိလာမည့်စွန့်ပစ်ရေဆိုး၊ မိလ္လာရေဆိုးအညစ်အကြေးများအား စနစ်တကျမစွန့်ပစ်ပါက ပတ်ဝန်းကျင်မြေထု၊ ရေထုညစ်ညမ်းနိုင်ခြင်း၊ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများဖြစ်သည့် စားသောက်ခန်း၊ မီးဖိုချောင်များမှထွက်ရှိလာမည့် အစားအသောက်အညစ်အကြေးများနှင့် ပလပ်စတစ်ကြွတ်ကြွတ်အိတ်များကို စနစ်တကျမစွန့်ပစ်ပါက မြေကြီးတွင် ဆွေးမြေ့ရန်အချိန်ကြာမြင့်သဖြင့် မြေထုညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Minor Myanmar Co.,Ltd မှ BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များချမှတ်ခြင်း၊ တည်ဆောက်ခြင်းလုပ်ငန်း အဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ယူပူးပေါင်းဆောင်ရွက်မှု ( Corporate Social Responsibility-CSR ) အား အသားတင်အမြတ်ငွေ၏ (၂%)အား ထည့်ဝင်သွားရန်အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်း

စီမံချက်များအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားရန်။

( ခ ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း ( Initial Environmental Examination – IEE ) ကို ဆောင်ရွက်ပြီးအစီရင်ခံစာရေးသားတင်ပြရန်။

( ဂ ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်နှင့် လူတို့၏ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့်လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်နှင့် စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( **Environmental Management Plan - EMP** )အား ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်းထားသောဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

( င ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇

☎ ၀၁-၆၅၈၁၂၉


စာအမှတ်၊ ရက- ၄ /မ-၁၅၂၉ /၂၀၁၆( ၁၇၇ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၈ ရက်

သို့

အဖွဲ့ခေါင်းဆောင်

ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန

One Stop Services အဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး၏ (၂၉-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၉၀၄/မသ-ဟိုတယ်/ထောက် ၅ က

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက် အမှတ်(၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကိုစိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ အဆိုပြုချက်ပါ လုပ်ငန်းဆောင်ရွက်မည့် နေရာတွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခြင်းအတွက် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု ရှိ-မရှိ နှင့် လုပ်ငန်းဆောင်ရွက်ရန် သင့်-မသင့် စသည့်အချက်များအပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ **ဒေါ်ပန်းမချူမောင်၊ ဖုန်းနံပါတ် ၀၉-၅၁၉၉၁၅၀** သို့ ဆက်သွယ်ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက်(တစ်)စောင် ပူးတွဲ ပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)

(ဆန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

DDG 459
28/2/16

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်

အကြောင်းအရာ။ **ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင်တင်ပြရန်ကိစ္စ**

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး ပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနသို့ (၈-၂-၂၀၁၆) ရက်စွဲပါစာဖြင့် သဘောထားတောင်းခံခဲ့ပါသည်။ အလံ "၁"

၂။ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းအပေါ် အောက်ပါအတိုင်း စိစစ်၍ သဘောထား ပြန်ကြားလာပါသည်- အလံ "၂"

(က) Minor Myanmar Co., Ltd. မှ ငှားရမ်းမည့် အခန်းခနှုန်းထားတွင် Deluxe (၁)ခန်း လျှင် အမေရိကန်ဒေါ်လာ (၉၀) မြန်မာငွေကျပ်အနေနှင့် ကျပ် (၉၉၀၀၀)၊ Beach Front Villa (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၁၅၀) မြန်မာငွေကျပ်အနေ နှင့် ကျပ် (၁၆၅၀၀၀)၊Pool Suite Villa (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၁၅၀) ၊ မြန်မာငွေ ကျပ်အနေနှင့် ကျပ်(၁၆၅၀၀၀)၊ Presidential Villa(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၃၅၀) စသည်ဖြင့်နှုန်းများ သတ်မှတ်ဖော်ပြထားသဖြင့် အနည်းငယ် မြင့်မားသော ဈေးနှုန်းဖြစ်၍ ငှားရမ်းခနှုန်းထားများနှင့် အသုံးပြုမည့် ပစ္စည်းများ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန် သင့်တင့်ရန် လိုအပ်ပါကြောင်း။

(ခ) Minor Myanmar Co., Ltd. မှ ဆောင်ရွက်မည့် ဟိုတယ် လုပ်ငန်းအတွက် အသုံးပြုသွားမည့် ပြည်ပမှ တင်သွင်းမည့် တည်ဆောက်ရေးပစ္စည်းများ ဟိုတယ် လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အခွန်သက်သာခွင့်မှာ ကော်မရှင်၏ အဆုံးအဖြတ်သာ ရယူရမည်ဖြစ်ပါကြောင်း။

(ဂ) ဟိုတယ်လုပ်ငန်း လိုင်စင်လျှောက်ထားရာတွင် အိပ်ခန်း အရေအတွက်နှင့် အချိုးညီခန့်အပ်ပြီး ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆိုင်ရာ သင်တန်းဆင်း လက်မှတ်များ တင်ပြနိုင်ရန် လိုအပ်သဖြင့် ကြိုတင်စီမံဆောင်ရွက်ထားနိုင်ရန်နှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် ပတ်သက်ပြီး ရေဆိုး၊ အမှိုက်နှင့် အညစ်အကြေး စွန့်ပစ်မှုစနစ်များအား စနစ်တကျ စီမံဆောင်ရွက်ထားရန် လိုအပ်ပါကြောင်း။

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

၃။ သို့ဖြစ်ပါ၍ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ သဘောထား နှင့် အညီ ပြင်ဆင်တင်ပြရန် ကုမ္ပဏီသို့ အကြောင်းကြားမည့် **စာချော**တွင် လက်မှတ်ရေးထိုး ပေးနိုင်ပါရန် ပြုစုတင်ပြအပ်ပါသည်။

| | ရေးသွင်းသူ | စိစစ်သူ | ကြီးကြပ်သူ |
|---|---|---|---|
| လက်မှတ် | 23/2/16 | 23/2/16 | |
| အမည် | (စိုးသီဟ) | (ဝင်းမိုးမိုးအေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၄။ [illegible]

[illegible] 23-2-16

( [illegible] )

ညွှန်ကြားရေးမှူး

၅။ [illegible]

ဒု-ညွှန်ကြားရေးမှူးချုပ်

၆။ [illegible]

[illegible]

[illegible]




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ-၁၅၂၉ / ၂၀၁၆(၂၈၄ - ၈)
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်

အကြောင်းအရာ ။ **ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန်ကိစ္စ**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၈-၂-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ရက- ၄/မ-၁၅၂၉ / ၂၀၁၆ (၁၇၉)

(၂) ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ (၁၉-၂-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၁၈-ဂ(အုပ်ချုပ်မှု)/နပတ/၀၄၈၆

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက် အမှတ်(၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနသို့ ရည်ညွှန်း(၁)ပါစာဖြင့် သဘောထားတောင်းခံခဲ့ပါသည်။

၂။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းအပေါ် ရည်ညွှန်း(၂)ပါစာဖြင့် အောက်ပါအတိုင်း စိစစ် သဘောထား ပြန်ကြားလာပါသည်-

(က) Minor Myanmar Co., Ltd. မှ ငှားရမ်းမည့်အခန်းခနှုန်းထားတွင် Deluxe (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၉၀) မြန်မာငွေကျပ်အနေနှင့် ကျပ် (၉၉၀၀၀)၊ Beach Front Villa (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၁၅၀) မြန်မာငွေကျပ်အနေ နှင့် ကျပ် (၁၆၅၀၀၀)၊Pool Suite Villa (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၁၅၀) ၊ မြန်မာငွေကျပ်အနေနှင့် ကျပ်(၁၆၅၀၀၀)၊ Presidential Villa(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၃၅၀) စသည်ဖြင့်နှုန်းများ သတ်မှတ်ဖော်ပြထားသဖြင့် အနည်းငယ် မြင့်မားသောဈေးနှုန်းဖြစ်၍ ငှားရမ်းခနှုန်းထားများနှင့် အသုံးပြုမည့် ပစ္စည်းများ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန် သင့်တင့်ရန် လိုအပ်ပါကြောင်း။

(ခ) ဟိုတယ်လုပ်ငန်း လိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့် အချိုးညီ ခန့်အပ်ပြီး ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆိုင်ရာ သင်တန်းဆင်းလက်မှတ်များ တင်ပြနိုင်ရန် လိုအပ်သဖြင့် ကြိုတင်စီမံဆောင်ရွက်ထားနိုင်ရန်နှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် ပတ်သက်ပြီး ရေဆိုး၊ အမှိုက်နှင့် အညစ်အကြေး စွန့်ပစ်မှု စနစ်များအား စနစ်တကျ စီမံဆောင်ရွက်ထားရန် လိုအပ်ပါကြောင်း။

၃။ သို့ဖြစ်ပါ၍ အထက်စာပိုဒ်(၂)ပါ အချက်များအား သိရှိနိုင်ပါရန်နှင့် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီလိုက်နာဆောင်ရွက်မည့် အစီအစဉ်ကို ကော်မရှင်သို့ ပြန်လည် တင်ပြပေးရန် အကြောင်းကြားပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

Minor Myanmar Co., Ltd.

မိတ္တူကို

စစ်ထောက်ချုပ်ရုံး
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)

ပြည်ထောင်စုဝန်ကြီးရုံး
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ရုံးလက်ခံ/ မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၃၃၇ 
☎ ၀၁-၆၅၈၁၂၉

စာအမှတ်၊ ရက- ၄/မ-၁၅၂၉/၂၀၁၆(    )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ   ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး
ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ ကာကွယ်ရေး ဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး ၏ (၂၉-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၉၀၄/မသ-ဟိုတယ်/ထောက် ၅ က

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက် အမှတ်(၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး ပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကိုစိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို အမြန်ဆုံးစိစစ်ပေးရန် နိုင်ငံတော် သမ္မတရုံး မှ ညွှန်ကြားထားပါသဖြင့် ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၏ အောက်ပါသဘော ထား မှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ **ဒေါ်ပန်းမဥ္ဇူမောင် ဖုန်းနံပါတ် ၀၉-၅၁၉၉၁၅၀** သို့ ဆက်သွယ်ဆောင်ရွက်နိုင်ပါရန် အဆိုပြုလွှာ(တစ်)စောင်အား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်-

(က) ဝန်ဆောင်ခ နှုန်းထားများ တင်ပြထားမှုများသည် ဆီလျော်မှု ရှိ-မရှိ ။

(ခ) ဖော်ပြပါ အဆိုပြုချက်နှင့်ပတ်သက်၍ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာန၏ သဘောထားနှင့် အကြံပြုချက် ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ဒုတိယညွှန်ကြားရေးမှူးချုပ် (ခ)၊
ဥက္ကဋ္ဌအတွင်းရေးမှူး
ဒုတိယညွှန်ကြားရေးမှူး (ခ)၊
ဒုတိယညွှန်ကြားရေးမှူး (ဂ)

စာအမှတ်၊ မြန်မာ/၂၀၁၆/ကုမ္ပဏီ(ခ)/
ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၆ ရက်

ဝအကြောင်းအရာ။ **Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ငပလီကုန်းကျေးရွာ တွင် BOT စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ငပလီကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာပါသည်။

၂။ ယင်းအဆိုပြုချက်တွင် ပူးတွဲတင်ပြထားသော ကုမ္ပဏီမှတ်ပုံတင် လက်မှတ် (မိတ္တူ) နှင့် ပတ်သက်၍ ကုမ္ပဏီဌာနခွဲမှ စိစစ်ပေးပါရန် တင်ပြအပ်ပါသည်။

(မြစန္ဒာ)
ညွှန်ကြားရေးမှူး

**ကုမ္ပဏီဌာနခွဲ**

၃။ [illegible]

[illegible]

DWMMA

၁၃၄ 287/15/2

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၁ ရက်

အကြောင်းအရာ။ **အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၆/၂၀၁၆)အစည်းအဝေး ဆုံးဖြတ်ချက်အားအကြောင်းကြားခြင်းကိစ္စ**

ဝမ-301 15/2.

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ငွေဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ် ရုံး ပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက် တင်ပြခြင်းကို ၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၈ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၆/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။ အလံ "၁၊၂"

၂။ အစည်းအဝေးဆုံးဖြတ်ချက်အား သက်ဆိုင်ရာဌာနနှင့် ကုမ္ပဏီတို့ထံ အကြောင်းကြား မည့် **စာချော** တွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | (signature) 11/2/16 | (signature) 11/2/16 | (signature) 11/2 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၃။ PAT (6/2016) အစည်းအဝေးဆုံးဖြတ်ချက်အား သက်ဆိုင်ရာဌာနနှင့် ကုမ္ပဏီ သို့ အကြောင်းကြားမည့် စာအားတင်ပြအပ်ပါသည်။ (signature) 12.2.16 (ဒေါ်မေဇင်ချော်ဦး)

ညွှန်ကြားရေးမှူး

၄။ တာဝန်

ဒု-ညွှန်ကြားရေးမှူးချုပ်

၅။ (signature)

ပိုး ၃

Minor Ns INV-3




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

**အဆိုပြုချက် စိစစ်ရေးအဖွဲ့**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇

☎ ၀၁-၆၅၈၁၂၉


စာအမှတ်၊ ရက- ၄/မ-၁၅၂၉/၂၀၁၆( ၂၁၇ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၅ ရက်

သို့

စစ်ထောက်ချုပ်ရုံး

ကာကွယ်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ **အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၆/၂၀၁၆)အစည်းအဝေး ဆုံးဖြတ်ချက်အား အကြောင်းကြားခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ကာကွယ်ရေး ဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး ၏ (၂၉-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၉၀၄/မသ-ဟိုတယ်/ထောက် ၅ က

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက် အမှတ်(၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး ပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြခြင်းကို အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၆/၂၀၁၆)(၈-၂-၂၀၁၆) အစည်းအဝေး သို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်-

(က) ကာကွယ်ရေးဝန်ကြီးဌာန စစ်ထောက်ချုပ်ရုံးမှ မြေနှင့် ပတ်သက်သည့် အထောက်အထား တင်ပြရန်။

(ခ) B.O.T စနစ်ဖြင့် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း) အပေါ် စိစစ်၍ ပြန်လည်တင်ပြရန်။

၂။ သို့ဖြစ်ပါ၍ အထက်ပါ ဆုံးဖြတ်ချက်အား ပြင်ဆင်ပြီးပါက ပြန်လည်တင်ပြပေးပါရန်နှင့် ရင်းနှီး မြှုပ်နှံမှုလုပ်ငန်းအသစ်အဖြစ် ဆောင်ရွက်ရန် လက်ခံနိုင်သည့် လုပ်ငန်းဖြစ်ကြောင်း အကြောင်းကြားအပ် ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)

(ဆန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို

Minor Myanmar Co., Ltd

ရုံးလက်ခံ / မျှောစာတွဲ

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အဆိုပြုချက် စိစစ်ရေးအဖွဲ့

၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၈ ရက်နေ့ နံနက် ၉း၀၀ နာရီတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး အမှတ်(၁)သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့ရှိ အစည်းအဝေးခန်းမ၌ ကျင်းပသည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၆/၂၀၁၆) ကြိမ်မြောက် အစည်းအဝေး မှတ်တမ်း

အစည်းအဝေးတက်ရောက်သည့် အဖွဲ့ဝင်များ/ ကိုယ်စားတက်ရောက်သူများ

ဦးမြင့်နိုင် အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
ပြည်တွင်းပြည်ပဆက်ဆံရေးနှင့်သတင်းပြန်ကြားရေးဌာနခွဲ
ပြည်ထောင်စုဝန်ကြီးရုံး
ဆောက်လုပ်ရေးဝန်ကြီးဌာန

ဦးခင်မောင်သွင် အဖွဲ့ဝင်
ဒုတိယအထွေထွေမန်နေဂျာ(အင်ဂျင်နီယာ)
ရန်ကုန်လျှပ်စစ်ဓာတ်အားပေးရေးကော်ပိုရေးရှင်း
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

ဦးကြည်ဦး အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
အကောက်ခွန်ဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးထွန်းသန်း အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
ပြည်တွင်းအခွန်များဦးစီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန

ဦးသန်းအေး အဖွဲ့ဝင်
ညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဦးသိန်းဆွေ ကိုယ်စား
ဒုတိယညွှန်ကြားရေးမှူး
စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
စက်မှုဝန်ကြီးဌာန

ကုမ္ပဏီ၏ ဒါရိုက်တာ ဦးအောင်လင်းဦးက လုပ်ငန်းဆောင်ရွက်ရာ၌ ကိုယ်ပိုင်မီးစက် 300 KVA၊ 325 KVA ၊ 175 KVA တို့ကို တပြိုင်နက်တည်းသုံးမည်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်နေရာတွင် ဘရန်ဇဖော်မာတင်ဆင်ရန် လျှောက်ထားဆဲဖြစ်ကြောင်း၊ မူလစာချုပ်အတွက် တံဆိပ်ခေါင်းခွန်ပေးဆောင်ခြင်းကို ၂၀၁၆ ခုနှစ် မတ်လ ၃ ရက်နေ့ နောက်ဆုံးထား၍ ပေးဆောင်မည်ဖြစ်ကြောင်း၊ အဆိုပြုချက်ပါပုံစံ-၁တွင် ဝန်ထမ်းအင်အားကို အမြင့်ဆုံးခန့်ထားမည့်ဦးရေနှင့် ဖော်ပြပေးမည်ဖြစ်ကြောင်း၊ ထပ်မံတိုးချဲ့မည့်အခန်းများမှာ ဆောက်လုပ်ဆဲဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်မည့်နေရာမှာ သံတွဲလေဆိပ်နှင့် ၂မိုင်ခန့်ဝေးပါကြောင်း၊ ယခုထပ်မံတိုးချဲ့မည့် အဆောက်အဦများကို မူလဘန်ဂလိုများ၏ကျောဘက်ခြမ်းကမ်းခြေနှင့်ဝေးသည့်နေရာတွင် ဆောက်လုပ်ထားပါကြောင်း၊ ထပ်မံဆောက်လုပ်မည့် အဆောက်အဦများအတွက် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနသို့ မတင်ပြရသေးပါကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာတွင် ယခုကုမ္ပဏီအမည်ကို ဆက်လက်အသုံးပြုမည်ဖြစ်ပြီး လောလောဆယ် နာမည်ပြောင်းရန် အစီအစဉ်မရှိသေးပါကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Htoo Trading Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (VT-၄၀) ၊ မြေ ၆၃.၀၅ ဧကအနက် မြေ (၅.၅၄) ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် စစ်ထောက်ချုပ်ရုံးမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအား အောက်ပါအတိုင်း ဆုံးဖြတ်ပါသည်-

(က) ထပ်မံတိုးချဲ့မည့် အဆောက်အဦများအတွက် Design နှင့် Layout Plan တို့ကို ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနသို့ တင်ပြရန်။
(ခ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။

၈။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာရှိ မြေ (၁၁.၃) ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် စစ်ထောက်ချုပ်ရုံးမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူး ဦးရဲညွှန့်က အမှာစာကို ဖတ်ကြားပြီး ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ မန်နေးဂျင်းဒါရိုက်တာ ဒေါ်အေးအေးမြင့်က မိမိတို့ကုမ္ပဏီသည် ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံးပိုင် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ် (၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ မြေ(၁၁.၃၀)ဧကတွင် B.O.Tစနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ ကြယ်လေးပွင့်အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၀၈၄.၄၂သန်း အပါအဝင် ကျပ် ၁၀၉၁၁.၀၀ သန်းဖြစ်ကြောင်း၊ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ကနဦး (၅၀)နှစ် နှင့်သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၂)နှစ်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန ညွှန်ကြားရေးမှူး ဒေါ်မြစန္ဒာက လုပ်ငန်းဆောင်ရွက်မည့်ဟိုတယ်တွင် ပါဝင်သောအခန်းအမျိုးအစားနှင့် အရေအတွက်တို့အား သိလိုပြီး အဆောက်အဦအသစ် ကဂ်မံဆောက်လုပ်ရန်ရှိ-မရှိ သိလိုကြောင်း၊ ယခင်ကုမ္ပဏီနှင့် ချုပ်ဆိုခဲ့သည့်စာချုပ်မှာ မည်သည့်ကာလတွင် စာချုပ်ရပ်စဲမည်ကို သိလိုပြီး စာချုပ်ရပ်စဲပြီးပါက ကော်မရှင်သို့ မိတ္တူပေးပို့စေလိုကြောင်း၊ အဆိုပြုချက်တွင် တည်ဆောက်ရေးကာလအား (၂)နှစ် တင်ပြထားကြောင်း ဆွေးနွေးပြောကြားပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် တွဲဖက်အတွင်းရေးမှူး ဒေါ်မြသူဇာက ယခုလုပ်ငန်းဆောင်ရွက်မည့်မြေတွင် ယခင်က မည်သည့်လုပ်ငန်းအား ငှားရမ်းခဲ့သည်ကို သိလိုကြောင်း၊ စာချုပ်(မူကြမ်း)တွင် တည်ဆောက်ရေးကာလ၊ စာချုပ်သက်တမ်းကာလ ဖော်ပြချက်များတွင် နေ့ရက်သေချာမှုမရှိသေးပါက စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ဟု ထည့်သွင်းရေးသင့်ကြောင်း၊ ဟိုတယ်ဆောက်လုပ်ရေးကာလနှင့် မြေအသုံးချမှုပရီမီယံကြေး ကောက်ခံမည့်နေ့ရက်မှာ B.O.T စာချုပ် စတင်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်ခြင်းရှိ-မရှိ သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ဆောက်လုပ်ရေးဝန်ကြီးဌာန ပြည်ထောင်စုဝန်ကြီးရုံး ညွှန်ကြားရေးမှူး ဦးမြင့်နိုင်က Max Myanmar Construction Co., Ltd. သည် စစ်ထောက်ချုပ်ရုံးပိုင်မြေကို လုပ်ငန်းဆောင်ရွက်ရန် စာချုပ်ချုပ်ဆိုငှားရမ်းခဲ့ပြီး စာချုပ်ပါအတိုင်း သတ်မှတ်ကာလအတွင်း လုပ်ငန်းမဆောင်ရွက်နိုင်၍ ပြန်လည်အပ်နှံလျှင် ဒဏ်ကြေးပေးဆောင်ရန် သတ်မှတ်ထားခြင်းရှိ-မရှိ သိလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး ဦးစီးအရာရှိ (တတိယတန်း) ဗိုလ်ကြီးကျော်သူသိန်းက ယခုအဆိုပြုနေရာတွင် Max Myanmar Construction Co., Ltd. မှ လုပ်ငန်းဆောင်ရွက်ခဲ့ပြီး ရှယ်ယာလွှဲပြောင်းခြင်းများ ဆောင်ရွက်ခဲ့သဖြင့် သက်ဆိုင်ရာဌာနသို့ တင်ပြခွင့်ပြုချက် တောင်းခံခဲ့ပါကြောင်း၊ Max Myanmar Construction Co., Ltd. နှင့် ယခင်ချုပ်ဆိုခဲ့ပြီးသည့် စာချုပ်ရပ်စဲရန် ဆောင်ရွက်လျက်ရှိပါကြောင်း၊ Minor Myanmar Co., Ltd. နှင့် B.O.T စနစ်ဖြင့် ချုပ်ဆိုမည့်စာချုပ်အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ပြီးဖြစ်ကြောင်း၊ Max Myanmar Construction Co., Ltd. နှင့်ချုပ်ဆိုထားသောစာချုပ်အရ မြေငှားရမ်းခနှင့်ပတ်သက်ပြီး ငွေကြေးကိစ္စ မပြီးပြတ်သေးသောကြောင့် စာချုပ်မရပ်ဆိုင်းရသေးပါကြောင်း၊ Max Myanmar Construction Co., Ltd. နှင့် ငွေကြေးကိစ္စများ ပြီးပြတ်မှသာ စာချုပ်ရပ်စဲမည်ဖြစ်ပြီး ယခုကုမ္ပဏီနှင့်စာချုပ်ချုပ်ဆိုမည်ဖြစ်ကြောင်း၊ Max Myanmar Construction Co., Ltd. နှင့်ချုပ်ဆိုထားသည့်မြေငှားစာချုပ်မှာ တံဆိပ်ခေါင်းခွန် မပေးဆောင်ရသေးပါကြောင်း၊ ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ ယခုကုမ္ပဏီနှင့် လုပ်ငန်းဆောင်ရွက်ရန် မြေငှားစာချုပ်(မူကြမ်း) ပေးပို့ခဲ့ရာ၌ Max Myanmar Construction Co., Ltd. နှင့်ချုပ်ဆိုခဲ့သည့် စာချုပ်ဟောင်းအား ပူးတွဲ၍မတင်ပြခဲ့ပါကြောင်း၊ စစ်ထောက်ချုပ်ရုံးပိုင်မြေများအားလုံးကို ကုမ္ပဏီများသို့ ငှားရမ်းပြီးသော မြေပုံအညွှန်းရှိပါကြောင်း၊ အဆိုပါမြေများအတွက် ပြည်ထဲရေးဝန်ကြီးဌာနမှ အမိန့်ရရှိပြီးဖြစ်ကာ မြေဂရန်များ ထွက်ရှိပြီးဖြစ်၍ မိတ္တူတင်ပြပေးမည်ဖြစ်ကြောင်း၊ စစ်ထောက်ချုပ်ရုံးပိုင်မြေအား ကုမ္ပဏီများမှ လုပ်ငန်းဆောင်ရွက်ရန် ငှားရမ်းပြီး

သတ်မှတ်ကာလအတွင်း မဆောင်ရွက်နိုင်၍ ပြန်လည်အပ်နှံပါက ဒဏ်ကြေးပေးဆောင်ရန် သတ်မှတ်ထားပါသဖြင့် အဆိုပါကုမ္ပဏီများမှ ဒဏ်ကြေးပေးဆောင်ရမည်ဖြစ်ကြောင်း ဆွေးနွေးပြောကြားပါသည်။

ဟိုတယ်နှင့် ခရီးသွားညွှန်ကြားမှု ဦးစီးဌာန လက်ထောက်ညွှန်ကြားရေးမှူး ဒေါ်စုစုက ကုမ္ပဏီအနေဖြင့် ဟိုတယ်လုပ်ငန်းဆောင်ရွက်ရာ၌ အခန်းငှားခနှုန်းထားများနှင့် သင့်တော်သောဝန်ဆောင်မှုပေးရန်လိုကြောင်း၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ရရှိပြီးပါက မိမိတို့ဌာနသို့ ဟိုတယ်လုပ်ငန်းလိုင်စင်လျှောက်ထားရန်လိုကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာ၌ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ အမိန့်၊ ညွှန်ကြားချက်များတွင်ပါဝင်သော အခြေခံလိုအပ်ချက်များကို လိုက်နာဆောင်ရွက်ရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပြည်တွင်းအခွန်များဦးစီးဌာန ညွှန်ကြားရေးမှူး ဦးထွန်းသန်းက စစ်ထောက်ချုပ်ရုံးအနေဖြင့် Max Myanmar Construction Co., Ltd. နှင့် ချုပ်ဆိုခဲ့သော မြေငှားရမ်းခြင်းစာချုပ်ဟောင်းမိတ္တူ တင်ပြပေးစေလိုပြီး အဆိုပါစာချုပ်အတွက် တံဆိပ်ခေါင်းခွန် ပေးဆောင်ပြီးခြင်းရှိ-မရှိ သိလိုကြောင်း၊ ချုပ်ဆိုပြီးခဲ့သည့်စာချုပ်အရ ငှားရမ်းခရငွေများသည် နိုင်ငံတော်အစိုးရ၏ ရငွေစာရင်းသို့ဝင်ပါက တံဆိပ်ခေါင်းခွန်ပေးဆောင်ရန် မလိုပါကြောင်း၊ ယခုလုပ်ငန်းရှင်မှ ယခင်လုပ်ငန်းရှင်အား ချုပ်ဆိုပြီးသည့် မြေငှားစာချုပ်ပေါ်တွင် တံဆိပ်ခေါင်းခွန်ပေးဆောင်ရန် ပြောကြားပေးစေလိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန ညွှန်ကြားရေးမှူး ဦးသန်းအေးက လုပ်ငန်းဆောင်ရွက်မည့် ဟိုတယ်တွင် အခန်း(၈၂)ခန်း ပါဝင်သဖြင့် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)အစီရင်ခံစာရေးဆွဲ တင်ပြရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

ကုမ္ပဏီ၏ မန်နေးဂျင်းဒါရိုက်တာ ဒေါ်အေးအေးမြင့်က လုပ်ငန်းဆောင်ရွက်မည့် ဟိုတယ်တွင် Deluxe Room (၄၀)ခန်း၊ Beach Front Room (၂၆)ခန်း၊ Pool Suite Villa (၁၅)ခန်း၊ Presidential Villa (၁)ခန်းပါဝင်ပြီး စုစုပေါင်းအခန်းအရေအတွက် (၈၂)ခန်း ရှိပါကြောင်း၊ ဟိုတယ်အဆောက်အဦ အသစ်မှာ ဆောက်လုပ်ဆဲဖြစ်ပြီး ယခုလုပ်ငန်းဆောင်ရွက်မည့်မြေမှာ ယခင်က Max Myanmar Construction Co., Ltd. မှ လုပ်ကိုင်ခဲ့ပြီး မိမိတို့အနေဖြင့် စစ်ထောက်ချုပ်ရုံးထံမှ ငှားရမ်းခြင်းဖြစ်ကြောင်း၊ ဟိုတယ်လုပ်ငန်းဆောင်ရွက်ရာ၌ သက်ဆိုင်ရာဝန်ကြီးဌာနနှင့် ဆက်သွယ်ဆောင်ရွက်မည်ဖြစ်ပြီး သတ်မှတ်ထားသော အမိန့်၊ ညွှန်ကြားချက်များကိုလည်း လိုက်နာမည်ဖြစ်ကြောင်း၊ ပထမအဆင့် အနေနှင့် လာမည့်ဧပြီလတွင် ဖွင့်လှစ်နိုင်အောင် လုပ်ကိုင်ဆောင်ရွက်နေပါကြောင်း၊ ယခင်က မြေငှားရမ်းခနှုန်းမှာ မြေ(၁၁.၃၀)ဧကအတွက် တစ်နှစ်စာ ကျပ် ၈၁,၄၁၆,၅၀၀ ဖြစ်ပြီး မြေအသုံးချမှုပရီမီယံကြေးမှာ မြေတစ်ဧကလျှင် မြန်မာကျပ်ငွေ ၂၅၀၀ သိန်း နှုန်းဖြင့် မြေ(၁၁.၃၀)ဧက အတွက် ကျသင့်ငွေ ၂၈၂၅၀ သိန်း အား စာချုပ်လက်မှတ်ထိုးသည့်နေ့မှစ၍ (၄)ကြိမ်ခွဲပြီး ကုမ္ပဏီမှ ပေးသွင်းရမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

အစည်းအဝေးမှ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာရှိ မြေ(၁၁.၃)ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် စစ်ထောက်ချုပ်ရုံးမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအား တစ်ဖက်ပါအတိုင်းဆုံးဖြတ်ပါသည်-

(က) ကာကွယ်ရေးဝန်ကြီးဌာန စစ်ထောက်ချုပ်ရုံးမှ မြေနှင့်ပတ်သက်သည့် အထောက်အထား တင်ပြရန်။

(ခ) B.O.T စနစ်ဖြင့် ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)အပေါ် စိစစ်၍ တင်ပြရန်။

(ဂ) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။

၉။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Max Highway Co.,Ltd. မှ B.O.T စနစ်ဖြင့် ဒဂုံတံတား-သီလဝါ စက်မှုဇုန်လမ်း (၁၃)မိုင် (၅)ဖာလုံ၊ သန်လျင်(ဘုရားကုန်း)-ကျောက်တန်းလမ်း (၈)မိုင် (၂)ဖာလုံနှင့် ပဲခူး-သနပ်ပင်-ခရမ်း-သုံးခွ-သန်လျင်လမ်း (၆)မိုင် စုစုပေါင်း (၂၇)မိုင် (၇)ဖာလုံတို့အား လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန ညွှန်ကြားရေးမှူး ဦးရဲညွန့်က အမှာစာကိုဖတ်ကြားပြီး ကုမ္ပဏီမှ ရှင်းလင်းတင်ပြရန် ဖိတ်ခေါ်ပါသည်။

ကုမ္ပဏီ၏ တာဝန်ရှိသူက မိမိတို့ကုမ္ပဏီသည် သန်လျင်ဒေသတွင် လမ်းပိုင်း စုစုပေါင်း (၂၇)မိုင် (၇)ဖာလုံ အား B.O.T စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း၊ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၅.၉၄ သန်း အပါအဝင် ကျပ် ၂၁၉၁၆.၉၁ သန်းဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၃)နှစ်ဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း(၂၂၁)ဦး ခန့်ထားမည်ဖြစ်ကြောင်း ရှင်းလင်းတင်ပြပါသည်။

လမ်းဦးစီးဌာန အင်ဂျင်နီယာချုပ် ဦးခင်သက်က Max Myanmar Construction Co., Ltd. သည် ပဲခူး-သနပ္ပင်-ခရမ်း-သုံးခွ-သန်လျင်လမ်း မိုင်တိုင်(၆၉)မိုင် (၂)ဖာလုံကို ၂၀၁၀ ခုနှစ်တွင် B.O.T စနစ်ဖြင့် စတင်ငှားရမ်းလုပ်ကိုင်ခဲ့ပါကြောင်း၊ ကုမ္ပဏီသည် ၂၀၁၃ ခုနှစ်တွင် လုပ်ငန်းဆောင်ရွက်ရန် အခက်အခဲရှိ၍ ဆောက်လုပ်ရေးဝန်ကြီးဌာနသို့ လုပ်ငန်းပြန်လည်အပ်နှံခဲ့ပါသဖြင့် ဌာနမှလွှဲပြောင်းလက်ခံခဲ့ပါကြောင်း၊ ယခုအခါ ပဲခူး-သနပ္ပင်-ခရမ်း-သုံးခွ-သန်လျင်လမ်း (၆)မိုင်၊သန်လျင်-ကျောက်တန်းလမ်း(၈)မိုင်(၂)ဖာလုံ၊ ဒဂုံတံတားမှသီလဝါစက်မှုဇုန်သို့ ဆက်သွယ်သည့်လမ်း(၁၀)မိုင်(၂)ဖာလုံနှင့် ဒဂုံ-သီလဝါ (၃)မိုင်(၃)ဖာလုံ စုစုပေါင်း လမ်းပိုင်း(၂၇)မိုင် (၇)ဖာလုံအား Max Highway Co., Ltd. သို့ B.O.T စနစ်ဖြင့် လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာသည်ကို လက်ခံပြီးဖြစ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြခြင်းဖြစ်ကြောင်း၊ ယခင်က Toll Gate (၃)ခုရှိပြီး မြို့ဝင်ကြေးကောက်ခံသည့် Toll Gate တစ်ခုမှာ ယခုမကောက်ခံတော့ပါကြောင်း ဆွေးနွေးပြောကြားပါသည်။

ရန်ကုန်လျှပ်စစ်ဓာတ်အားပေးရေးကော်ပိုရေးရှင်း ဒုတိယအထွေထွေမန်နေဂျာ (အင်ဂျင်နီယာ) ဦးခင်မောင်သွင်က လုပ်ငန်းဆောင်ရွက်မည့် Toll Gate မှာ (၃)ခုဟုတ်-မဟုတ် သိလိုပြီး အဆိုပြုချက်တွင် ထရန်စဖော်မာနှင့် မီးစက်(၃)လုံးစီ တင်ပြထားသည်ကို တွေ့ရကြောင်း၊ ကုမ္ပဏီအနေဖြင့် အဆိုပြုချက်တွင် လုပ်ငန်းအတွက် အမှန်တကယ်အသုံးပြုမည့် လျှပ်စစ်ဓာတ်အားပမာဏဖြင့် ပြင်ဆင်ဖော်ပြပေးရန်လိုကြောင်း ဆွေးနွေးပြောကြားပါသည်။

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
|---|---|
| ပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။ | |
| (ဂ) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Puma Energy Asia Sun Mandalay Terminal Co., Ltd. မှ ဆိပ်ခံတံတားနှင့် သိုလှောင်ကန်များ တည်ဆောက်ခြင်းလုပ်ငန်း ဆောက်ရွက်ရန် မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍-<br>(၁) မန္တလေးတိုင်းဒေသကြီး အစိုးရအဖွဲ့မှ မြေအသုံးချမှုအတွက် ပြည်ထောင်စုအစိုးရအဖွဲ့သို့ ခွင့်ပြုချက် တောင်းခံရန်။<br>(၂) B.O.Tစာချုပ်နှင့်မြေငှားစာချုပ်(မူကြမ်း)များပေါ်တွင် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်တင်ပြပေးရန်။<br>(၃) အသုံးချမည့်မြေ (၁၄.၆၃)ဧကအတွက် မြေဂရန်ရရှိအောင် ဆောင်ရွက်ရန်။<br>(၄) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာပြင်ဆင် တင်ပြလာပါက ကော်မရှင် အစည်းအဝေးသို့တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>Puma Energy Asia Sun Mandalay Terminal Co., Ltd. |
| (ဃ) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Htoo Trading Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (VT-၄၀)၊ မြေ (၆၃.၀၅) ဧကအနက် မြေ (၅.၅၄) ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် စစ်ထောက်ချုပ်ရုံးမှတဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍-<br>(၁) ထပ်မံတိုးချဲ့မည့် အဆောက်အဦများအတွက် Design နှင့် Layout Plan တို့ကို ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနသို့ တင်ပြရန်။<br>(၂) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>Htoo Trading Co., Ltd. |
| (င) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ငါးဖြူကုန်းကျေးရွာရှိ မြေ (၁၁.၃) ဧကတွင် B.O.T စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် စစ်ထောက်ချုပ်ရုံးမှတဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍-<br>(၁) ကာကွယ်ရေးဝန်ကြီးဌာန စစ်ထောက်ချုပ်ရုံးမှ မြေနှင့်ပတ်သက်သည့် အထောက်အထားတင်ပြရန်။<br>(၂) B.O.T စနစ်ဖြင့် ချုပ်ဆိုမည့်စာချုပ်(မူကြမ်း)အပေါ် စိစစ်၍ တင်ပြရန်။<br>(၃) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြည့်စုံစွာ ပြင်ဆင် | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>Minor Myanmar Co., Ltd. |

ဆုံးဖြတ်ချက်

တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့တင်ပြရန်။

| ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် |
| --- | --- |
| (ခ) မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Max Highway Co., Ltd. မှ B.O.T စနစ်ဖြင့် ဒဂုံတံတား-သီလဝါစက်မှုဇုန်လမ်း (၁၃)မိုင်(၅)ဖာလုံ၊ သန်လျင်(ဘုရားကုန်း)-ကျောက်တန်းလမ်း(၈)မိုင်(၂)ဖာလုံနှင့် ပဲခူး-သနပ်ပင်-ခရမ်း-သုံးခွ-သန်လျင်လမ်း (၆)မိုင် စုစုပေါင်း(၂၇)မိုင်(၇)ဖာလုံ တို့အား လမ်းအဆင့်မြှင့်တင်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍-<br>(၁) ပြည်ပမှတင်သွင်းမည့် ကုန်ကြမ်းပစ္စည်းစာရင်းအား ပြည်တွင်းဝယ်စာရင်းဖြင့် ပြင်ဆင်တင်ပြရန်။<br>(၂) လမ်းအသုံးပြုခကောက်ခံမည့် ဂိတ်စာရင်းနှင့် ပေ ၁၈၀ အထက် တံတားစာရင်းတင်ပြရန်။<br>(၃) သဘောထားများစုံလင်ပြီး လိုအပ်ချက်များ ပြင်ဆင်တင်ပြလာပါက ကော်မရှင်အစည်းအဝေးသို့တင်ပြရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>Max Highway Co., Ltd. |
| (ဆ) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Classita Myanmar Co., Ltd. မှ CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်း ဆောင်ရွက်မည့် တည်နေရာနှင့် အဆောက်အဦတို့နှင့်စပ်လျဉ်း၍ ကွင်းဆင်းစစ်ဆေး ဆောင်ရွက်ခဲ့သည့် အစီရင်ခံစာတင်ပြမှုအပေါ် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် စက်ရုံအင်္ဂါရပ်နှင့်အညီ သင့်တော်သော အကျယ်အဝန်းရှိသည့်မြေနေရာသို့ ပြောင်းလဲဆောင်ရွက်ခွင့် တင်ပြလာမှသာ အဆိုပြုလုပ်ငန်းအား လက်ခံရန်။ | အဆိုပြုချက် စိစစ်ရေးအဖွဲ့<br>Classita Myanmar Co., Ltd. |

၁၂။ အစည်းအဝေးကို နေ့လည်(၁၂း၃၀) နာရီတွင် ရုပ်သိမ်းပါသည်။

မှတ်တမ်းတင်သူ

(မြစန္ဒာ)
ညွှန်ကြားရေးမှူး

စာအမှတ်၊ ရက-၆/ ၁/၂၀၁၆ ( ၀၁၀၉ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၁ ရက်

**ဖြန့်ဝေခြင်း**

အစည်းအဝေးတက်ရောက်သူများအားလုံး

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၅ ရက်

အကြောင်းအရာ။ **Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ တွင် BOT စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာပါသည်။

၂။ ယင်း အဆိုပြုချက်နှင့်စပ်လျဉ်း၍ ရခိုင်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၊ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာနနှင့် တို့သို့ သဘောထားတောင်းခံမည့် **(စာချော)**များတွင် လက်မှတ် ရေးထိုးပေးနိုင်ပါရန်ပြုစု တင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | 5/2/16 | 5/2/16. | 5/2 |
| အမည် | (စိုးသီဟ) | (ဝင်းမို့မို့အေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၃။ အဆိုပါကိစ္စနှင့်ပတ်သက်၍ သဘောထားတောင်းခံမည့် စာချောတွင် လက်မှတ်ရေးထိုးပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

5.2.16
(ဝင်းမောင်ဦး)

ညွှန်ကြားရေးမှူး

၄။ သဘောထားမှတ်ချက် တောင်းခံမည့် စာချော တွင် လက်မှတ်ရေးထိုး ပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

5.2.16
(မြအုန်း)




**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
**အဆိုပြုချက်စိစစ်ရေးအဖွဲ့**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇ စာအမှတ်၊ ရက- ၄ /မ-၁၅၂၉ /၂၀၁၆( ၁၇၇ )
☎ ၀၁-၆၅၈၁၂၉ ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၈ ရက်

သို့

အဖွဲ့ခေါင်းဆောင်
ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန
One Stop Services အဖွဲ့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး၏ (၂၉-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၉၀၄/မသ-ဟိုတယ်/ထောက် ၅ က

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက် အမှတ်(၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး ပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကိုစိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ အဆိုပြုချက်ပါ လုပ်ငန်းဆောင်ရွက်မည့် နေရာတွင် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခြင်းအတွက် သဘာဝ ပတ်ဝန်းကျင် ထိခိုက်မှု ရှိ-မရှိ နှင့် လုပ်ငန်းဆောင်ရွက်ရန် သင့်-မသင့် စသည့်အချက်များအပေါ် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြု လုပ်ငန်းနှင့် စပ်လျဉ်း၍ **ဒေါ်ပန်းမဥ္စမောင်၊ ဖုန်းနံပါတ် ၀၉-၅၁၉၉၁၅၀** သို့ ဆက်သွယ်ဆောင်ရွက် နိုင်ပါရန် အဆိုပြုချက်(တစ်)စောင် ပူးတွဲ ပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)
(ဆန်းမြင့်၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

Minor (F) INV-3.com




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇      စာအမှတ်၊ ရက- ၄/မ-၁၅၂၉/၂၀၁၆( )

☎ ၀၁-၆၅၈၁၂၉      ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ရက်


သို့

ရခိုင်ပြည်နယ်အစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ (၁) နိုင်ငံတော်သမ္မတရုံး၏ (၂၀-၄-၂၀၁၁) ရက်စွဲပါ အမိန့်ကြော်ငြာစာ အမှတ်၊ ၃၃/၂၀၁၁

(၂) ကာကွယ်ရေး ဦးစီးချုပ်ရုံး (ကြည်း)၊ စစ်ထောက်ချုပ်ရုံး ၏ (၂၉-၁-၂၀၁၆) ရက်စွဲပါစာအမှတ်၊၉၀၄/မသ-ဟိုတယ်/ထောက် ၅ က

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက် အမှတ်(၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကိုစိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရတို့၏ ထောက်ခံချက်ကို အထူးအလေးထားစဥ်းစားပါသဖြင့် ဝန်ကြီးချုပ် ကိုယ်တိုင်စိစစ် လက်မှတ်ရေးထိုးပြီး ထောက်ခံပေးပါရန် နိုင်ငံတော် သမ္မတရုံး၏ ရည်ညွှန်းချက်(၁)ပါ စာပိုဒ် ၃(စ) တွင် ဖော်ပြထားပါသည်။

၄။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို အမြန်ဆုံးစိစစ်ပေးရန် နိုင်ငံတော် သမ္မတရုံးမှ ညွှန်ကြားထားပါသဖြင့် ရခိုင်ပြည်နယ်အစိုးရအဖွဲ့၏ အောက်ဖော်ပြပါ သဘောထား မှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းနှင့် စပ်လျဥ်း၍ **ဒေါ်ပန်းမဥ္ဇူမောင် ဖုန်းနံပါတ် ၀၉-၅၁၉၉၁၅၀** သို့ ဆက်သွယ် ဆောင်ရွက်နိုင်ပါရန် အဆိုပြုချက် တစ်စောင်အား ပူးတွဲ ပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်ခြင်း ရှိ-မရှိ။

(ခ) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်-မဖြစ်။

(ဂ) ဖော်ပြပါ မြေနေရာအား အဆိုပြုလုပ်ငန်းအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ-မရှိ။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ ဟုတ်-မဟုတ်။

(င) ရခိုင်ပြည်နယ်အစိုးရအဖွဲ့၏အကြံပြုချက်။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ထောက်ချုပ်ရုံး

Minor Myanmar Co., Ltd.

ရုံးလက်ခံ / မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

ဖက်(စ်) ၀၁-၆၅၈၁၃၇

☎ ၀၁-၆၅၈၁၂၉


စာအမှတ်၊ ရက- ၄/မ-၁၅၂၉/၂၀၁၆(    )

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ    ရက်

သို့

ပြည်ထောင်စုဝန်ကြီးရုံး

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံခြင်း ကိစ္စ**

ရည် ညွှန်း ချက် ။ ကာကွယ်ရေး ဦးစီးချုပ်ရုံး(ကြည်း)၊ စစ်ထောက်ချုပ်ရုံး ၏ (၂၉-၁-၂၀၁၆) ရက်စွဲပါ စာအမှတ်၊ ၉၀၄/မသ-ဟိုတယ်/ထောက် ၅ က

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက် အမှတ်(၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး ပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကိုစိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်းများ၏ သဘောထားများကို တောင်းခံရယူရန် လိုအပ်ပါသည်။

၃။ ကော်မရှင်အနေဖြင့် လုပ်ငန်းအဆိုပြုလွှာများကို အမြန်ဆုံးစိစစ်ပေးရန် နိုင်ငံတော် သမ္မတရုံး မှ ညွှန်ကြားထားပါသဖြင့် ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၏ အောက်ပါသဘော ထား မှတ်ချက်အား **ရက်သတ္တပတ် တစ်ပတ်အတွင်း** ပြန်ကြားပေးနိုင်ပါရန်နှင့် အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ **ဒေါ်ပန်းမဥ္ဇူမောင် ဖုန်းနံပါတ် ၀၉-၅၁၉၉၁၅၀** သို့ ဆက်သွယ်ဆောင်ရွက်နိုင်ပါရန် အဆိုပြုလွှာ(တစ်)စောင်အား ပူးတွဲပေးပို့လျက် ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်-

(က) ဝန်ဆောင်ခ နှုန်းထားများ တင်ပြထားမှုများသည် ဆီလျော်မှု ရှိ-မရှိ ။

(ခ) ဖော်ပြပါ အဆိုပြုချက်နှင့်ပတ်သက်၍ ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာန၏ သဘောထားနှင့် အကြံပြုချက် ။

ဥက္ကဋ္ဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

Minor (H)INV-3.com




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

အမှတ်(၁)၊သစ္စာလမ်း၊ရန်ကင်းမြို့နယ်၊ရန်ကုန်မြို့

တယ်လီဖုန်း - ၀၁-၆၅၈၁၃၃ | စာအမှတ်၊ ရက - ၉ / ၁ / ၂၀၁၅ (၆၁၄၂၀)
ဖက်(စ်) - ၆၅၇၈၂၄ | ရက်စွဲ ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၃၀ ရက်

သို့

**ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)**

**စစ်ထောက်ချုပ်ရုံး**

အကြောင်းအရာ။ **Max (Myanmar) Co., Ltd. မှ ပုသိမ်မြို့နယ်၊ ချောင်းသာ ကျေးရွာတွင် B.O.T စနစ်ဖြင့် ဆောင်ရွက်လျှက်ရှိသည့် ဟိုတယ် လုပ်ငန်းအား ရှယ်ယာလွှဲပြောင်းရောင်းချခွင့်ပြုပါရန် တင်ပြလာ ခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ (၁) Max(Myanmar)Co.,Ltd.၏ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၂၀ ရက်နေ့ ရက်စွဲပါ စာအမှတ်၊ မမမ/ဥက္ကဌရုံး/၀၀၇/၂၀၁၅

(၂) စစ်ထောက်ချုပ်ရုံး၊ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၏ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၁၉ ရက်နေ့ ရက်စွဲပါစာအမှတ်၊ ၉၅၃/မသ/နတခ/ထောက် ၅ က

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ်၊ မနသ - ၆၅၇ /၂၀၀၅ ဖြင့် ဧရာဝတီတိုင်းဒေသကြီး၊ ပုသိမ်မြို့နယ်၊ ချောင်းသာကျေးရွာ၊ ဦးပိုင်အမှတ်(စျ-၁)ရှိ၊ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင်မြေပေါ်တွင် B.O.T စနစ်ဖြင့် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ရရှိထားသော Max (Myanmar) Co.,Ltd.၏ ရည်ညွှန်းချက်(၁)ပါစာ၊ စစ်ထောက်ချုပ်ရုံး၊ ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၏ရည်ညွှန်းချက်(၂)ပါစာတို့ဖြင့် တင်ပြလာခြင်းကိစ္စတို့နှင့် စပ်လျဉ်း၍ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၂၉ ရက်နေ့တွင် ကျင်းပသည့် ကော်မရှင်၏ (၁၈/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်-

(က) Max (Myanmar) Co., Ltd. မှ ပုသိမ်မြို့နယ်၊ ချောင်းသာကျေးရွာတွင် B.O.T စနစ်ဖြင့် ဆောင်ရွက်လျှက်ရှိသည့် ဟိုတယ်လုပ်ငန်းအား Minor Myanmar Co., Ltd. သို့ ရှယ်ယာလွှဲပြောင်းရောင်းချခွင့်ပြုကြောင်း၊

(ခ) Max (Myanmar) Co.,Ltd. နှင့် စစ်ထောက်ချုပ်ရုံးတို့၏ B.O.T စာချုပ်အား ရပ်စဲခွင့်ပြုကြောင်း နှင့် Minor Myanmar Co., Ltd.နှင့် စစ်ထောက်ချုပ်ရုံးတို့ B.O.T စာချုပ်ချုပ်ဆို၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုကြောင်း၊

၂။ သို့ဖြစ်ပါ၍ ကော်မရှင် အစည်းအဝေး ဆုံးဖြတ်ချက်အား သိရှိနိုင်ပါရန်နှင့် Max (Myanmar) Co., Ltd. နှင့် စစ်ထောက်ချုပ်ရုံးတို့၏ B.O.T စာချုပ်အား လုပ်ထုံးလုပ်နည်းများနှင့် အညီ ရပ်စဲသည့် စာချုပ် နှင့် Minor Myanmar Co., Ltd.နှင့် စစ်ထောက်ချုပ်ရုံးတို့သည် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် B.O.T စာချုပ်မိတ္တူ (၅)စုံစီ တို့ကို ဤကော်မရှင်သို့ပေးပို့ပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

မန်နေဂျင်းဒါရိုက်တာ၊ Max (Myanmar) Co., Ltd.
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရုံးလက်ခံ၊မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ထောက်ချုပ်ရုံး

စာအမှတ်၊ ၉၀၄/မသ-ဟိုတယ်/ထောက်၅က
ရက်စွဲ၊၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိမြေ(၁၁. ၃၀)ဧကအား ဟိုတယ်လုပ်ငန်းလုပ်ကိုင်ရန်အတွက်Minor Myanmar Co.,Ltdသို့ ငှားရမ်းခွင့် တင်ပြခြင်း**

၁။ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၁၁. ၃၀)ဧကအားငှားရမ်း၍ဟိုတယ်လုပ်ငန်းများတည်ဆောက်လုပ်ကိုင်ရန်အတွက် **Minor Myanmar Co.,Ltd.** မှ အောက်ပါအတိုင်းတင်ပြလာခဲ့ပါသည်-

(က) **ကုမ္ပဏီအမည်။ Minor Myanmar Co.,Ltd**။

(ခ) **အဆိုပြုမြေ။** ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိမြေ(၁၁. ၃၀)ဧက။

(ဂ) **ဆောင်ရွက်မည့်လုပ်ငန်း။** ဟိုတယ်လုပ်ငန်းများ။

(ဃ) **ရင်းနှီးမြှုပ်နှံမှုပမာဏ။** မြန်မာငွေကျပ်သန်း(၁၀၉၁၁)သန်း။

(င) **ငှားရမ်းလိုသည့်နှစ်။** (၅၀+၁၀+၁၀)နှစ်(၇၀)( B.O.T )

(စ) **မြေငှားရမ်းခ။** မြေငှားရမ်းခကို အောက်ပါအတိုင်းပေးသွင်းမည်ဖြစ်ပါသည်-

(၁) မြေ(၁၁. ၃၀)ဧကအတွက် မြေအသုံးချမှု ပရီမီယံကြေး မြေ(၁)ဧကလျှင်မြန်မာငွေကျပ်(၂၅၀၀)သိန်းနှုန်းဖြင့် မြေ(၁၁. ၃၀)ဧကအတွက် ကျသင့်ငွေ(၂၈၂၅၀)သိန်းအား စာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍(၄)ကြိမ်ခွဲပြီးပေးသွင်းပါမည်။

(၂) မြေငှားရမ်းခအဖြစ်မြန်မာငွေကျပ်(၈၁၄. ၁၆၅)သိန်းကို(၁)နှစ်လျှင်(၁)ကြိမ် ပေးသွင်းပါမည်။

၂။ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင် မြေ(၁၁. ၃၀)ဧကအားငှားရမ်း၍ဟိုတယ်လုပ်ငန်းများတည်ဆောက်လုပ်ကိုင်ရန်အတွက် **Minor Myanmar Co.,Ltd.** သို့ ငှားရမ်းခွင့်နှင့်ပတ်သက်၍ကုန်သွယ်မှုမူဝါဒကောင်စီ၏၁၆-၈-၂၀၀၇ရက်စွဲပါစာအမှတ်၊ အမစ/ကသ/၃/၂၅(၅၈၀/၂၀၀၇)အရ သဘောတူခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။

Hotel(9)-78

၃။ **Minor Myanmar Co.,Ltd.**သို့ ငှားရမ်းမည့်မြေ(၁၁. ၃၀)ဧကမှာ အမှတ်(၅၅) ခြေလျင်တပ်ရင်း (တိုးချဲ့)တပ်ပိုင်မြေ ဇီးဖြူကုန်းမြေ(၃၅. ၅၃)ဧကသည် ပြည်ထဲရေးဝန်ကြီးဌာန၏ ၉-၈-၂၀၀၀ ရက်စွဲပါစာအမှတ်၊ ၂၀၀/၂-၄/ဦး၁နှင့် ၂၀၀/၂-၅/ဦး၁အရ တပ်ပိုင်မြေအမည်ပေါက်ရရှိပြီးဖြစ်ပါသည်။

၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရင်းနှီးမြှုပ်နှံမှုဥပဒေသစ်ဖြင့် နှစ်ရှည်(၅၀+၁၀+၁၀)နှစ်(၇၀) ( B.O.T )စာချုပ်ချုပ်ဆိုနိုင်ရေး ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)ခွင့်ပြုချက်အရ **Minor Myanmar Co.,Ltd.** သို့ မြေငှားရမ်းခြင်းအတွက် စာချုပ်ချုပ်ဆိုနိုင်ရေးပြင်ဆင်ထားရှိပြီး စာချုပ်နှင့် ပတ်သက်၍ ရှေ့နေချုပ်ရုံး၏ အကြံပြုချက်များရရှိပြီးဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ အကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၁၁. ၃၀)ဧကအားငှားရမ်း၍**Minor Myanmar Co.,Ltd.**မှ ဟိုတယ် လုပ်ငန်းများတည်ဆောက်လုပ်ကိုင်ရန်အတွက် ငှားရမ်းခြင်းဆိုင်ရာလုပ်ငန်းများနှင့် ပတ်သက်၍ ရင်းနှီးမြှုပ်နှံမှု အချက်အလက်များအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် လိုအပ်သလို စိစစ်ခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

**ပူးတွဲပါ။** စာချုပ်(မူကြမ်း) (၁)စုံ။

စစ်ထောက်ချုပ် (ကြည်း)

**မိတ္တူကို**

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

Hotel(9)-79

အထွေထွေအရပ်ရပ်-၁၆
ရုံးတွင်းစာအကျဉ်းချုပ် သို့မဟုတ် စာကြမ်းရေးရန်အတွက်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်

အကြောင်းအရာ။ **အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၆/၂၀၁၆) အစည်းအဝေးသို့ တင်ပြရန် အမှာစာ တင်ပြခြင်းကိစ္စ**

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ် ရုံးပိုင် မြေ (၁၁.၃၀ဧက)တွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၆/၂၀၁၆) အစည်းအဝေးသို့ တင်ပြမည့် **အမှာစာ (စာချော)** အား ပြုစုတင်ပြအပ်ပါသည်။

| | **ရေးသွင်းသူ** | **စိစစ်သူ** | **ကြီးကြပ်သူ** |
|---|---|---|---|
| လက်မှတ် | 2/2/16 | 3/2/16 | 3/2 |
| အမည် | (စိုးသီဟ) | (ဝင်းမိုမိုအေး) | (သန်းသန်းနု) |
| ရာထူး | ဒုတိယဦးစီးမှူး | ဦးစီးအရာရှိ | လက်ထောက်ညွှန်ကြားရေးမှူး |

**ဒုတိယညွှန်ကြားရေးမှူး**

၃။

3.2.16 (ဝင်းမောင်ချိုဦး)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့**

စာအမှတ်၊ရကဗ-၆(က)/မ-၁၅၂၉/၂၀၁၆( ၁၆၇ )

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၃ ရက်

**အဆိုပြုချက်စိစစ်ရေးအဖွဲ့သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ တွင် BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် စစ်ထောက်ချုပ်ရုံးမှတစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ**

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက် အမှတ်(၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ကော်မရှင်ရုံးအဖွဲ့မှ Check List ဖြင့်စိစစ်ခဲ့ပြီး Check List ပါ လိုအပ်ချက်များအား ပြည့်စုံစွာ ထပ်မံပေးပို့ပါရန် ကုမ္ပဏီသို့ ပြောကြားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ Minor Myanmar Co., Ltd. မှ BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအားလုပ်ကိုင်ဆောင်ရွက်ခွင့်အတွက် အဆိုပြုချက်တင်ပြခြင်းအပေါ် အဖွဲ့ဝင်များ နှင့် ဌာနများမှကြိုတင်စိစစ်ချက်အရလိုအပ်ချက်များ၊ ပြင်ဆင်ဖြည့်စွက်ရန်ကိစ္စများ၊ လုပ်ထုံးလုပ်နည်း နှင့် မညီညွတ်သည့် ကိစ္စများကို ဆွေးနွေးနိုင်ပါရန် တင်ပြအပ်ပါသည်။

3.2.16

အဖွဲ့ခေါင်းဆောင်(ကိုယ်စား)

(ဒေါက်တာမင်းဇော်ဦး၊ဒုတိယညွှန်ကြားရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

## Minor Myanmar Co., Ltd. မှ BOT စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း အား လုပ်ကိုင်ဆောင်ရွက်ခွင့်နှင့်စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Minor Myanmar Co., Ltd. |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်အေးအေးမြင့်(မန်နေဂျင်းဒါရိုက်တာ) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း<br><br>မြေပိုင်ရှင် | - ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက် အမှတ်(၆)ရှိ ကာကွယ်ရေး ဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင်မြေ (၁၁.၃၀)ဧက<br>- ကာကွယ်ရေးဝန်ကြီးဌာနချုပ်(ကြည်း)၊ စစ်ထောက်ချုပ်ရုံးပိုင် |
| ၅။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု**<br>ငွေပမာဏ<br>စက်ပစ္စည်းတန်ဖိုး<br>အဆောက်အဦများ<br>ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ | **- ကျပ် ၁၀၉၁၁.၀၀ သန်း (US$ ၁၀၈၄.၄၂ သန်း အပါအဝင်)**<br>- ကျပ် ၂၉၆၇.၄၃ သန်း<br>- ကျပ် ၁၉၃.၆၁ သန်း (US$ ၁၆၁.၃၄ သန်း အပါအဝင်)<br>- ကျပ် ၆၄၃၂.၀၀ သန်း<br>- ကျပ် ၁၃၁၇.၉၆ သန်း (US$ ၉၂၃.၀၈ သန်း အပါအဝင်) |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး(၅၀)နှစ်၊ နောက်ထပ် (၁၀)နှစ် (၂)ကြိမ် |
| ၇။ | တည်ဆောက်ရေးကာလ | - (၂) နှစ် |
| ၈။ | ပဏာမစူးစမ်းလေ့လာမှုကာလ | - (၆) လ |
| ၉။ | မြေငှားရမ်းခနှုန်းထား<br><br>မြေအသုံးချမှုပရီမီယံကြေး | - နှစ်စဉ်ငှားရမ်းခအဖြစ် မြေ(၁၁.၃၀)ဧက အတွက် တစ်နှစ်စာ ကျပ် ၈၁,၄၁၆,၅၀၀<br>- တစ်ဧကလျှင် ကျပ် သိန်း ၂၅၀၀ နှုန်းဖြင့် စုစုပေါင်း(၁၁.၃၀)ဧက အတွက် ကျပ် သိန်း ၂၈,၂၅၀ |
| ၁၀။ | ဝန်ဆောင်မှု(၆)နှစ်မြောက်) | **- ဟိုတယ်ဝန်ဆောင်မှု** |

| အခန်း အမျိုးအစား | ဝန်ဆောင်မှု ပေးမည့် အရေ အတွက် နှုန်း (အခန်း) | | ဝန်ဆောင်ခနှုန်း (တစ်နှစ်) | |
|---|---|---|---|---|
| | US$ | ကျပ် | US$ | ကျပ် |
| Deluxe | ၉၀ | ၉၉၀၀၀ | ၂၂၀,၇၅၂ | ၁၆၁,၈၈၄,၈၀၀ |
| Beach Front Villa | ၁၈၀ | ၁၉၈၀၀၀ | ၂၇၉.၀၀၆ | ၁၃၁,၅၃၁,၄၀၀ |
| Pool Suite Villa | ၁၅၀ | ၁၉၈၀၀၀ | ၁၆၀,၉၆၅ | ၇၅,၈၈၃,၅၀၀ |
| Presidential Villa | ၃၅၀ | | ၃၅.၇၇၀ | - |

| | | |
|---|---|---|
| ၁၁။ | ဝင်ငွေ<br>(၆)နှစ် ပြောက် ဝင်ငွေအား ကောက်နုတ်တင်ပြထားခြင်း ဖြစ်ပါသည်။ | - US$ ၀.၉၅ သန်း<br>- ကျပ် ၄၃၀.၄၈ သန်း |
| ၁၂။ | အသားတင်အမြတ်<br>(၆ နှစ်ပြောက်) | - ကျပ် ၄၇၆.၃၃ သန်း |
| ၁၃။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br>- ကျပ် ၁၅၈.၇၈ သန်း<br>- ကျပ် ၂၁.၅၂ သန်း၊ US$ ၀.၀၄ သန်း |
| ၁၄။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br>ပြည်ပ | - ပြည်တွင်းမှ ဝန်ထမ်း (၉၉)ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် (၁၀၈,၀၀၀)ဖြစ်ပြီးအမြင့်ဆုံးလစာမှာကျပ်(၆၀၀,၀၀၀) ဖြစ်ပါသည်။<br>- မရှိပါ။ |
| ၁၅။ | အရင်းကြေကာလ | - (၁၁)နှစ်၊ (၆)လ |
| ၁၆။ | အရင်းအနှီးပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၉.၃၄% |
| ၁၇။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - Generator ၃၅၀ KVA, ၂၅၀ KVA, ၁၅၀ KVA |
| ၁၈။ | ငွေကြေးအထောက်အထား | - ကျပ် ငွေ အထောက်အထား အဖြစ် ဒေါ်အေးအေးမြင့် အမည်ဖြင့် AYA Bank တွင် (၂၉-၁-၂၀၁၆)ရက်စွဲဖြင့် ငွေလက် ကျန် ကျပ် ၁၉၀,၅၉၄,၅၁၃.၁၃ ရှိကြောင်းဖော်ပြထားပါသည်။ |
| ၁၉။ | အခြားတင်ပြချက်များ | (က) ကာကွယ်ရေးဝန်ကြီးဌာနချုပ်(ကြည်း)၊ စစ်ထောက်ချုပ်ရုံး နှင့် Minor Myanmar Co., Ltd.တို့ ပြည်ထောင်စုရွှေ့နေချုပ်ရုံး၏ သဘောထား မှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(၁) မြေငှားရမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့ မှ စတင်၍ ကနဦး နှစ်(၅၀)နှင့် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် **နောက်ထပ် (၁၀)နှစ် (၂)ကြိမ် သက်တမ်းတိုးမြှင့်မည်ဖြစ်ပါသည်။ အပိုဒ်-၃(ခ)**<br>(၂) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် တစ်ဧကလျှင် ကျပ် သိန်း ၂၅၀၀ နှုန်းဖြင့်မြေ(၁၁.၃)ဧကအတွက်ကျပ် သိန်း ၂၈,၂၅၀ ကိုအောက်ပါအတိုင်းပေးသွင်းရမည်ဖြစ်ပါသည်- **အပိုဒ်-၄(က)**<br>(က) B.O.T စာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ (၁)လ အတွင်း ပထမအကြိမ် ၂၅% အား လည်းကောင်း။ |

| | | |
|---|---|---|
| | | (ခ) B.O.T စာချုပ် ချုပ်ဆိုပြီး (၈)လအတွင်း ၂၅% အား လည်းကောင်း။<br>(ဂ) B.O.T စာချုပ်ချုပ်ဆိုပြီး(၁၆)လအတွင်း ၂၅% အား လည်းကောင်း။<br>(ဃ) B.O.T စာချုပ်ချုပ်ဆိုပြီး(၂၄)လအတွင်း ၂၅% အား လည်းကောင်း ၄ ကြိမ်ခွဲပြီး ပေးသွင်းရမည်။<br>(၃) မြေငှားရမ်းခမှာ နှစ်စဥ် ငှားရမ်းခအဖြစ် တစ်နှစ်စာအတွက် ကျပ် ၈၁,၄၁၆,၅၀၀ နှုန်းဖြင့်ပေးသွင်းရမည်။ မြေငှားရမ်းခ နှုန်းထားများကို (၁)နှစ်တစ်ကြိမ် ပေးသွင်းရမည်။ **အပိုဒ်-၄(ခ)**<br>(၄) နှစ်စဥ်ငှားရမ်းခကို အချိန်မှီ ပေးချေခြင်း မပြုပါက ကျော် လွန်သည့် တစ်ရက်လျှင် ပေးချေရမည့် ငွေ၏ (၀.၀၅%) နှင့်ညီမျှသော ငွေကို ဒဏ်ကြေးအဖြစ် ပေးဆောင်ရမည်။ **အပိုဒ်-၄(စ)**<br>(၅) နှစ်စဥ်ငှားရမ်းခကို ၅ နှစ် တစ်ကြိမ် နှစ်ဖက် ပြန်လည် ညှိနှိုင်း သုံးသပ်ရမည်။ အကယ်၍ ငှားရမ်းထပ်မံ တိုးမြှင့် မည်ဆိုပါက ယင်းတိုးမြှင့်သည့် နှုန်းထားသည် မူလ ငှားရမ်းခ၏ (၁၅%) ထက် မကျော်လွန်စေရ။ **အပိုဒ်-၄(ဇ)**<br>(၆) Minor Myanmar Co., Ltd. မှ လုပ်ငန်း ဆောင်ရွက်မှု ဘဏ်အာမခံငွေ အဖြစ် တစ်နှစ်ငှားရမ်းခ ဖြစ်သော ကျပ် ၈၁,၄၁၆,၅၀၀ ကို ကာကွယ်ရေးရငွေစာရင်းသို့ ပေးသွင်း ရန် နှင့် ငွေရပြေစာမူရင်းများ ပေးပို့ရမည်။ **အပိုဒ်-၄(ဃ)** |
| ၂၀။ | ကော်မရှင်ရုံးအဖွဲ့မှ စိစစ်တင်ပြချက် | (က) ကုမ္ပဏီမှ CSR(Corporate Social Responsibility) အတွက် Net Profit ၏ ၂% ကို သုံးစွဲရန် လျာထားမည် ဖြစ် ကြောင်း တင်ပြထားပါသည်။<br>(ခ) အဆိုပြုလုပ်ငန်း၏ မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း)တွင် မြေ (၁၁.၃) ဧက ဟု ဖော်ပြထားသော်လည်း မြေစာရင်း ပုံစံ- ၁၀၅ အထောက်အထား တင်ပြထားခြင်း မရှိပါကြောင်း စိစစ် တွေ့ရှိရ ပါသည်။<br>(ဂ) ဝင်ငွေ၊ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်နှင့် အရင်းအနှီးအပေါ် အကျိုး ပြန်ပေါ်နှုန်းတို့မှာ ကုမ္ပဏီမှတင်ပြချက်အရ ဖော်ပြထား ခြင်းသာ ဖြစ်ပါ သည်။<br>(ဃ) အဆိုပြုလုပ်ငန်း၏ စီးပွားရေးဆိုင်ရာ တွက်ချက်မှုများအား ကော်မရှင် ရုံးအဖွဲ့မှ ထပ်မံ၍စိစစ်ပြီးပါကပြင်ဆင်တင်ပြရန်။<br>(င) ကုမ္ပဏီမှ တင်ပြထားသည့် မြေကွက်အမှတ်နှင့် B.O.T စာချုပ် (မူကြမ်း)ပါ မြေကွက်အမှတ်တို့မှာ စစ်ထောက်ချုပ်ရုံးမှ ပေးပို့လာ |

သည့် မြေကွက်အမှတ်နှင့် ကွဲလွဲနေပါသဖြင့် မြေကွက်အမှန် နှင့် မြေအထောက်အထားတို့အား တင်ပြရန် လိုအပ်ပါသည်။

(စ) ပြည်ပမှ အောက်ပါ စက်ပစ္စည်းစာရင်းအား တင်သွင်းလိုကြောင်း တင်ပြထားပါသည်-

| ယာဉ် အမျိုးအစား | အရေအတွက် | ဈေးနှုန်း US$ | စုစုပေါင်း US$ |
|---|---|---|---|
| 350 KVA Generator | ၁ | ၄၀,၀၀၀ | ၄၀,၀၀၀ |
| 250 KVA Generator | ၁ | ၂၈,၀၀၀ | ၂၈,၀၀၀ |
| 150 KVA Generator | ၁ | ၂၂,၀၀၀ | ၂၂,၀၀၀ |
| Buggy | ၂၀ | ၂,၂၀၀ | ၄၄,၀၀၀ |
| Grass Cutter | ၃ | ၇၈၀ | ၂,၃၄၀ |
| Key Card System | ၁ | ၂၅,၀၀၀ | ၂၅,၀၀၀ |
| **စုစုပေါင်း** | ၂၇ | | ၁၆၁,၃၄၀ |

| | | |
|---|---|---|
| ၂၀။ | သဘောထားမှတ်ချက်တောင်းခံမည့် ဌာနများ | - ရခိုင်ပြည်နယ်အစိုးရအဖွဲ့၊ ဟိုတယ် နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်း တို့ထံသို့ သဘောထားများ တောင်းခံမည် ဖြစ်ပါသည်။ |

Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာတွင် BOT စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရန် ကော်မရှင် အစည်းအဝေးသို့တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၉-၁-၂၀၁၆ | - | - |
| ၂။ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရခိုင်ပြည်နယ်အစိုးရအဖွဲ့ရုံး | ၈-၂-၂၀၁၆ | ၇-၃-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၈-၂-၂၀၁၆ | ၇-၃-၂၀၁၆ | |
| | (ဂ) ဟိုတယ်နှင့် ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာန | ၈-၂-၂၀၁၆ | ၂၂-၂-၂၀၁၆ | |
| ၃။ | PATအစည်းအဝေး(၆/၂၀၁၆)(၈-၂-၂၀၁၆) သို့ တင်ပြခြင်း | ၈-၂-၂၀၁၆ | | |
| ၄။ | PAT အစည်းအဝေး ဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၁၅-၂-၂၀၁၆ | ၁၄-၃-၂၀၁၆ | |
| ၅။ | ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထား မှတ်ချက် နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံ ကတိပေးပို့ခြင်း ကုမ္ပဏီမှအဆိုပြုလွှာ(၁၀)စုံ ပြန်လည်ပေးပို့ခြင်း | ၁၄ -၃-၂၀၁၆ | | |
| ၆။ | PATအစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီ မှ ပြင်ဆင်တင်ပြခြင်း | ၁၄ -၃-၂၀၁၆ | | |
| ၇။ | ကော်မရှင် အစည်းအဝေးသို့ တင်ပြမည့် အကြိမ်/ နေ့ရက် | ၁၀/၂၀၁၆ | | |
| | စုစုပေါင်းကြာမြင့်ရက် | ( ၄၅ )ရက် | | |

| | |
|---|---|
| ကုမ္ပဏီအမည် | - Minor Myanmar Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ( Private Company ဖြစ်ပါသည်။) |
| လုပ်ငန်းအမျိုးအစား | - နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း |
| တည်နေရာ | - ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင်မြေကွက်အမှတ်(၆)၊ အကွက်အမှတ်(၂၀၂)ရှိမြေဧရိယာ(၁၁.၃၀)ဧက၊ ဇီးဖြူကုန်းကျေးရွာ အုပ်စု၊ သံတွဲမြို့နယ်၊ သံတွဲခရိုင်၊ ရခိုင်ပြည်နယ် |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၀၉၁၁.၀၀ သန်း (US$ ၁၀၈၄.၄၂ သန်း အပါအဝင်) |
| လုပ်ငန်းသက်တမ်း | - ကနဦး (၅၀)နှစ် ၊ နောက်ထပ်(၁၀)နှစ် (၂)ကြိမ် |
| အရင်းကြေကာလ | - (၁၁)နှစ် (၆)လ |
| IRR | - ၉.၃၄ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြ အပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၁၆ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆ |
| ၃ | သွင်းကုန်ခွန်ကင်းလွတ်ခွင့် | ၀.၀၈ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၇၈၈.၁၀ |
| ၅ | ဝင်ငွေခွန် | ၇၂၅.၀၆ | ၁၅၈၇.၇၀ |
| ၆ | မြေအသုံးချမှုပရီမီယံကြေး | - | ၀.၀၂ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ၄၈.၉၀ |
| ၈ | CSR (၁ %) | - | ၉၅.၃၀ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း ၂၂၀ ဦး |
| | စုစုပေါင်း | ကျပ် ၇၂၇.၃၀ သန်း | ကျပ် ၂၅၂၁.၁၆ သန်း |
| | Cost : Benefit | ၁:၃ | |

## Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ တွင် BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် နှင့် စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>လုပ်ငန်းအဆိုပြုသူအမည်<br>အဖွဲ့အစည်းပုံသဏ္ဍာန်<br>အဆိုပြုလုပ်ငန်းအမျိုးအစား<br>လုပ်ငန်းတည်နေရာ /<br>မြေအကျယ်အဝန်း<br><br><br>မြေပိုင်ရှင် | - Minor Myanmar Co., Ltd.<br>- ဒေါ်အေးအေးမြင့်(မန်နေဂျင်းဒါရိုက်တာ)<br>- လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။)<br>- နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း<br>- ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်း အမှတ်(၂၀၂)၊ မြေကွက် အမှတ်(၆)ရှိ ကာကွယ်ရေး ဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင်မြေ ဧရိယာ(၁၁.၃၀)ဧက<br>- စစ်ထောက်ချုပ်ရုံးပိုင် |
| ၂။ | တည်ဆောက်ရေးကာလ<br>ပဏာမစူးစမ်းလေ့လာမှုကာလ | - ၂ နှစ်<br>- ၆ လ |
| ၃။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ကနဦး (၅၀)နှစ်၊နောက်ထပ်(၁၀)နှစ် (၂)ကြိမ် |
| ၄။ | မြေငှားစာချုပ်(မူကြမ်း)ပါအဓိက<br>အချက်များ | (က) ကာကွယ်ရေး ဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး နှင့် Minor Myanmar Co., Ltd.တို့ ပြည်ထောင်စု ရှေ့နေချုပ် ရုံး၏ သဘောထားမှတ်ချက်နှင့်အညီချုပ်ဆိုမည့် မြေငှားရမ်း ခြင်း စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-<br>(၁) မြေငှားရမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးသည့် နေ့ မှ စတင်၍ ကနဦး နှစ်(၅၀)နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ချက်ဖြင့် နောက် **ထပ် (၁၀)နှစ် (၂)ကြိမ် သက်တမ်းတိုးမြှင့်မည်ဖြစ်ပါ သည်။** **အပိုဒ်-၃(ခ)**<br>(၂) မြေအသုံးချမှု ပရီမီယံကြေး အဖြစ် တစ်ဧကလျှင် ကျပ် သိန်း ၂၅၀၀ နှုန်းဖြင့် မြေဧရိယာ (၁၁.၃)ဧက အတွက် ကျပ် သိန်း ၂၈,၂၅၀ ကို အောက်ပါအတိုင်း ပေးသွင်းရမည်ဖြစ်ပါသည်- **အပိုဒ်-၄(ဂ)**<br>(က) B.O.T စာချုပ် လက်မှတ် ရေးထိုးသည့် နေ့မှ (၁)လအတွင်း ပထမအကြိမ် ၂၅% အား လည်း ကောင်း။<br>(ခ) B.O.T စာချုပ် ချုပ်ဆိုပြီး (၈)လအတွင်း ၂၅% အား လည်းကောင်း။<br>(ဂ) B.O.T စာချုပ်ချုပ်ဆိုပြီး(၁၆)လအတွင်း ၂၅% အား လည်းကောင်း။<br>(ဃ) B.O.Tစာချုပ် ချုပ်ဆိုပြီး (၂၄)လ အတွင်း ၂၅% အားလည်းကောင်း ၄ကြိမ်ခွဲပြီး ပေးသွင်းရမည်။ |

(၃) မြေငှားရမ်းခမှာ နှစ်စဉ် ငှားရမ်းခအဖြစ် တစ်နှစ်စာအတွက် ကျပ် ၈၁,၄၁၆,၅၀၀ နှုန်းဖြင့်ပေးသွင်း ရမည်။ မြေငှားရမ်းခ နှုန်းထားများကို (၁)နှစ်တစ်ကြိမ် ပေးသွင်းရမည်။ **အပိုဒ်-၄(ခ)**

(၄) နှစ်စဉ်ငှားရမ်းခကို အချိန်မှီ ပေးချေခြင်း မပြုပါက ကျော်လွန်သည့် တစ်ရက်လျှင် ပေးချေရမည့် ငွေ၏ (၀.၀၅%)နှင့် ညီမျှသော ငွေကို ဒဏ်ကြေးအဖြစ် ပေးဆောင်ရမည်။ **အပိုဒ်-၄(စ)**

(၅) နှစ်စဉ်ငှားရမ်းခကို ၅ နှစ် တစ်ကြိမ် နှစ်ဖက် ပြန်လည်ညှိနှိုင်းသုံးသပ်ရမည်။ အကယ်၍ ငှားရမ်းထပ်မံ တိုးမြှင့်မည်ဆိုပါကယင်းတိုးမြှင့်သည့် နှုန်းထားသည်မူလ ငှားရမ်းခ၏(၁၅%)ထက်မကျော်လွန်စေရ။ **အပိုဒ်-၄(ဇ)**

(၆) Minor Myanmar Co., Ltd. မှ လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံငွေ အဖြစ် တစ်နှစ်ငှားရမ်းခ ဖြစ်သော ကျပ် ၈၁,၄၁၆,၅၀၀ ကို ကာကွယ်ရေးရငွေစာရင်းသို့ ပေးသွင်း ရန် နှင့် ငွေရပြေစာမူရင်းများ ပေးပို့ရမည်။ **အပိုဒ်-၄(ဃ)**

၅။ **စုစုပေါင်းမတည်ငွေရင်းပမာဏ** - **ကျပ် ၁၀၉၁၁.၀၀ သန်း (US$ ၁၀၈၄.၄၂ သန်း အပါအဝင်)**
- ငွေသား - ကျပ် ၂၉၆၇.၄၃ သန်း
- စက်ပစ္စည်း - ကျပ် ၁၉၃.၆၁ သန်း (US$ ၁၆၁.၃၄ သန်း )
- အဆောက်အဦပစ္စည်း - ကျပ် ၆၄၃၂.၀၀ သန်း
- ဟိုတယ်လုပ်ငန်းသုံးပစ္စည်း - ကျပ် ၁၃၁၇.၉၆ သန်း (US$ ၉၂၃.၀၈ သန်း အပါအဝင်)

၆။ လုပ်သားအင်အား - **၉၉ ဦး**
- ပြည်တွင်း - ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၁၀၈,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်း(၁)ဦး၏ လစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။
- ပြည်ပ - မရှိပါ။

၇။ ဝန်ဆောင်မှု(၆)နှစ်မြောက်

| အခန်း အမျိုးအစား | အခန်း အရေ အတွက် | ဝန်ဆောင်မှု ပေးမည့် အရေ အတွက် နှုန်း (အခန်း) | | ဝန်ဆောင်ခနှုန်း (တစ်နှစ်) | |
|---|---|---|---|---|---|
| | | US$ | ကျပ် | US$ | ကျပ် |
| Deluxe | ၄၀ | ၉၀ | ၉၉၀၀၀ | ၂၇၅,၉၄၀ | ၁၃၀,၀၈၆,၀၀၀ |
| Beach Front Villa | ၂၆ | ၁၈၀ | ၁၉၈၀၀၀ | ၃၅၈,၇၂၂ | ၁၆၉,၁၁၁,၈၀၀ |
| Pool Suite Villa | ၁၅ | ၁၈၀ | ၁၉၈၀၀၀ | ၂၀၆,၉၅၅ | ၉၇,၅၆၄,၅၀၀ |
| Presidential Villa | ၁ | ၃၅၀ | - | ၃၈,၃၂၅ | |
| စုစုပေါင်း | ၈၂ | | | | |

| | | |
|---|---|---|
| ၈။ | ဝင်ငွေ<br>အသားတင်အမြတ်(၆ နှစ်မြောက်) | - US$ ၀.၉၅ သန်း ၊ ကျပ် ၄၃၀.၄၈ သန်း<br>- ကျပ် ၄၇၆.၃၃ သန်း |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>(၆နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၁၅၈.၇၇ သန်း<br>- ကျပ် ၂၀.၅၂ သန်း၊ US$ ၀.၀၅ သန်း |
| ၁၀။ | အရင်းကြေကာလ | - (၁၁)နှစ် (၆)လ |
| ၁၁။ | အရင်းအနှီးအပေါ် အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | - ၉.၃၄ % |
| ၁၂။ | ငွေကြေးအထောက်အထား | - ကျပ် ငွေအထောက်အထား အဖြစ် ဒေါ်အေးအေးမြင့် အမည်ဖြင့် AYA Bank တွင် (၂၉-၁-၂၀၁၆)ရက်စွဲဖြင့် ငွေလက်ကျန် ကျပ် ၁၉၀,၅၉၄,၅၁၃.၁၃ ရှိကြောင်းဖော်ပြထားပါသည်။ |
| ၁၃။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - CSR ရန်ပုံငွေအတွက် နှစ်စဉ် လုပ်ငန်း၏ အသားတင် အမြတ်ငွေမှ ၂ ရာခိုင်နှုန်းအား သီးသန့် ရန်ပုံငွေ ထားရှိသုံးစွဲသွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ တင်ပြထားပါသည်။ |
| ၁၄။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် ကြိုတင်ကာကွယ်တားဆီးမှု အစီအမံများ တင်ပြထားပါသည်။ |
| ၁၅။ | လျှပ်စစ်ဓါတ်အား | - နိုင်ငံတော် အစိုးရမှ ဖြန့်ဖြူးသော လျှပ်စစ်ဓါတ်အားကို အဓိကရယူသုံးစွဲမည် ဖြစ်သော်လည်း လျှပ်စစ်ဓါတ်အား လုံလောက်မှုမရှိပါက ကိုယ်ပိုင်မီးစက်(၃၅၀ KVA, ၂၅၀ KVA, ၁၅၀ KVA ) တို့ဖြင့် အသုံးပြုသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၆။ | စိစစ်တင်ပြချက် | (က) ငပလီကမ်းခြေရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင်မြေဖြစ်သည့် ဇီးဖြူကုန်း မြေ ၃၅.၅၃ ဧက၊ ရွှေဝါချိုင်ဟိုတယ်မြေ ၆၃.၀၅ ဧက၊ မွေးရေငါးပြတိုက် ၄.၄၃ ဧကပေါ်ရှိ ကုမ္ပဏီ ၉ ခုမှ ဟိုတယ်များ တည်နေရာပြ ယူတီအမ်မြေပုံအား တင်ပြထားပါသည်။<br>(ခ) မက်စ် မြန်မာ ဟိုတယ် ကုမ္ပဏီ နှင့် စစ်ထောက်ချုပ်ရုံး တို့၏ B.O.T စာချုပ်အား ရပ်စဲခွင့်ပြုကြောင်းနှင့် Minor Myanmar Co., Ltd နှင့် စစ်ထောက်ချုပ်ရုံးတို့ B.O.T စာချုပ် ချုပ်ဆို၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုကြောင်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ တင်ပြထားပါသည်။<br>(ဂ) ပြည်ပမှ အောက်ပါ စက်ပစ္စည်းများစာရင်းအား တင်သွင်းလို ကြောင်း တင်ပြထားပါသည်- |

| ယာဉ် အမျိုးအစား | အရေအတွက် | ဈေးနှုန်း US$ | စုစုပေါင်း US$ |
|---|---|---|---|
| 350 KVA Generator | ၁ | ၄၀,၀၀၀ | ၄၀,၀၀၀ |
| 250 KVA Generator | ၁ | ၂၈,၀၀၀ | ၂၈,၀၀၀ |

| ပစ္စည်း အမျိုးအစား | အရေအတွက် | ဈေးနှုန်း US$ | စုစုပေါင်း US$ |
|---|---|---|---|
| 150 KVA Generator | ၁ | ၂၂,၀၀၀ | ၂၂,၀၀၀ |
| Buggy | ၂၀ | ၂,၂၀၀ | ၄၄,၀၀၀ |
| Grass Cutter | ၃ | ၇၈၀ | ၂,၃၄၀ |
| Key Card System | ၁ | ၂၅,၀၀၀ | ၂၅,၀၀၀ |
| စုစုပေါင်း | ၂၇ | | ၁၆၀,၃၄၀ |

(ဃ)မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ငပလီကမ်းခြေတွင် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ခွင့်ပြုမိန့် ထုတ်ပေးခဲ့သည့် လုပ်ငန်းများမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ကုမ္ပဏီအမည်/ ခွင့်ပြုမိန့် အမှတ် | လုပ်ငန်း အမျိုးအစား | တည် နေရာ |
|---|---|---|---|
| ၁ | ပုဂံသံတဲဟိုတယ် အုပ်စုကုမ္ပဏီ လီမိတက် ၇၀၁/ ၂၀၀၉ (၃၀-၆-၂၀၀၉) | B.O.T စနစ်ဖြင့် ဟိုတယ် လုပ်ငန်း | ရခိုင်ပြည်နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (VT-40) |
| ၂ | Eden Hotels & Resort Co., Ltd. ၁၀၂၃/၂၀၁၅ (၇-၁-၂၀၁၅) | B.O.T စနစ်ဖြင့် ကြယ်ငါးပွင့်အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ အမှတ်(၃၈) ရပ်ကွက်၊ ဇီးဖြူကုန်း ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၂၀၁) ကွန်းခြံကွင်း၊ ဦးပိုင်အမှတ် -၁၈-က၊ င၊ ၂၆-က၊ ၂၆-ခ၊ ဃ၊င၊ ၂၇-က-ခ-ဃ၊ ၂၈ |
| ၃ | Adventure Myanmar Tour & Incentives Co., Ltd. ၁၀၆၉/၂၀၁၅ (၂၄-၇-၂၀၁၅) | B.O.T စနစ်ဖြင့် ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ အမှတ်(၃၈) ရပ်ကွက်၊ ဇီးဖြူကုန်း ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၂၀၂) ၊ ဦးပိုင်အမှတ် ၆၅-က၊ ၁၀၆၊ ၁၀၇-ဃ၊င၊ စ၊ ၁၀၈-က၊ခ၊ ငပလီကမ်းခြေ |

| | | | စဉ် | ကုမ္ပဏီအမည်/ ခွင့်ပြုမိန့် အမှတ် | လုပ်ငန်း အမျိုးအစား | တည် နေရာ |
|---|---|---|---|---|---|---|
| | | | ၄ | Fortune International Limited ၁၁၀၉ / ၂၀၁၅ (၁၆-၁၂-၂၀၁၅) | B.O.T စနစ်ဖြင့် အခန်း (၁၀၀)ပါ နိုင်ငံတကာ အဆင့်မီဟို တယ် ဝန်ဆောင်မှု လုပ်ငန်း | ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာအုပ်စု၊ မြေကွက် အမှတ်-၃၈၊ ကွင်းအမှတ်- ၂၀၁ (ကွန်းခြံ ကွင်း)၊ ဦးပိုင် အမှတ်-စ/ ၂၁+ ဆ/ ၂၁+ ဃ/ ၂၁+ ခ/ ၂၁+ က/ ၂၂+ ခ/ ၂၂ ရှိမြေ ဧရိယာ (၂.၆၃) ဧကနှင့် ကွင်း အမှတ်- ၂၀၂ (ဇီးဖြူကုန်းကွင်း)၊ ဦးပိုင် အမှတ်- N/၁၄+ က/၉၅/ ၁+ က/၉၅/ ၂+ ၉၆ ရှိမြေဧရိယာ (၃.၀၂) ဧက |
| | | | ၅ | Jade Marina Resort Hotel Co., Ltd. | B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (၄၀)၊ မြေကွက် အမှတ် (၁/ ၂/ ၁၀၆/ ၁၀၇) ရှိ မြေ(၆.၆၀)ဧက |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကက- ၄/မ-၁၅၂၉/၂၀၁၆( ၄၁၆ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၄ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာတွင် BOT စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် စစ်ထောက်ချုပ်ရုံးမှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက် အမှတ်(၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေ (၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့် မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းအား ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၈ ရက်နေ့တွင် ကျင်းပသည့် အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၆/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ ကနဦး ၅၀ နှစ်၊ တစ်ကြိမ်လျှင် ၁၀ နှစ်စီဖြင့်(၂)ကြိမ် သက်တမ်းတိုးမည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ်နှင့် ပဏာမစူးစမ်း လေ့လာမှုပြုလုပ်မည့်ကာလမှာ ၆ လ ဖြစ်ပါသည်။

၃။ ကာကွယ်ရေး ဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး နှင့် Minor Myanmar Co., Ltd. တို့ ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့် အညီ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ် (မူကြမ်း) ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(၁) မြေငှားရမ်းကာလမှာ စာချုပ်လက်မှတ်ရေးထိုးသည့် နေ့ မှ စတင်၍ ကနဦး နှစ်(၅၀)နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် **နောက်ထပ် (၁၀)နှစ် (၂)ကြိမ်သက်တမ်းတိုးမြှင့်မည်ဖြစ်ပါသည်။** **အပိုဒ်-၃(ခ)**

(၂) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် တစ်ဧကလျှင် ကျပ် သိန်း ၂၅၀၀ နှုန်းဖြင့် မြေဧရိယာ (၁၁.၃) ဧက အတွက် ကျပ် သိန်း၂၈,၂၅၀ ကို အောက်ပါအတိုင်း ပေးသွင်းရမည်ဖြစ်ပါသည်- **အပိုဒ်-၄(ဂ)**

(က) B.O.T စာချုပ် လက်မှတ် ရေးထိုးသည့် နေ့မှ (၁)လအတွင်း ပထမအကြိမ် ၂၅% အား လည်း ကောင်း။

(ခ) B.O.T စာချုပ် ချုပ်ဆိုပြီး (၈)လအတွင်း ၂၅% အား လည်းကောင်း။

(ဂ) B.O.T စာချုပ်ချုပ်ဆိုပြီး(၁၆)လအတွင်း ၂၅% အား လည်းကောင်း။

(ဃ) B.O.Tစာချုပ် ချုပ်ဆိုပြီး(၂၄)လအတွင်း၂၅% အား လည်းကောင်း ၄ ကြိမ်ခွဲပြီးပေးသွင်းရမည်။

(၃) မြေငှားရမ်းခမှာ နှစ်စဉ်ငှားရမ်းခအဖြစ် တစ်နှစ်စာအတွက် ကျပ် ၈၁,၄၁၆,၅၀၀ ကို ပေးသွင်းရမည်။ မြေငှားရမ်းခများကို(၁)နှစ်တစ်ကြိမ်ပေးသွင်းရမည်။ **အပိုဒ်-၄(ခ)**

(၄) နှစ်စဉ်ငှားရမ်းခကို အချိန်မှီပေးချေခြင်း မပြုပါကကျော်လွန်သည့် တစ်ရက်လျှင် ပေးချေရမည့်ငွေ၏(၀.၀၅%)နှင့်ညီမျှသောငွေကိုဒဏ်ကြေးအဖြစ်ပေးဆောင်ရမည်။ **အပိုဒ်-၄(စ)**

(၅) နှစ်စဉ်ငှားရမ်းခကို ၅ နှစ် တစ်ကြိမ် နှစ်ဖက် ပြန်လည် ညှိနှိုင်းသုံးသပ်ရမည်။ အကယ်၍ ငှားရမ်းခ ထပ်မံတိုးမြှင့်မည်ဆိုပါက ယင်းတိုးမြှင့်သည့် နှုန်းထားသည် မူလ ငှားရမ်းခ၏ (၁၅%) ထက်မကျော်လွန်စေရ။ **အပိုဒ်-၄(ဇ)**

(၆) Minor Myanmar Co., Ltd. မှ လုပ်ငန်းဆောင်ရွက် မှု ဘဏ်အာမခံငွေ အဖြစ် တစ်နှစ် ငှားရမ်းခဖြစ်သော ကျပ် ၈၁,၄၁၆,၅၀၀ ကို ကာကွယ်ရေးရငွေစာရင်းသို့ ပေးသွင်းရန် နှင့် ငွေရပြေစာမူရင်းများ ပေးပို့ရမည်။ **အပိုဒ်-၄(ဃ)**

၄။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ စုစုပေါင်း ကျပ် ၁၀၉၁၁.၀၀ သန်း(US$ ၁၀၈၄.၄၂ သန်းအပါအဝင်)ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| **စုစုပေါင်းမတည်ငွေရင်းပမာဏ** | **ကျပ်** | **၁၀၉၁၁.၀၀** | **သန်း (US$ ၁၀၈၄.၄၂ သန်း အပါအဝင်)** |
| (က) ငွေပမာဏ | ကျပ် | ၂၉၆၇.၄၃ | သန်း |
| (ခ) စက်ပစ္စည်း | ကျပ် | ၁၉၃.၆၁ | သန်း (US$ ၁၆၁.၃၄ သန်း ) |
| (ဂ) အဆောက်အဦပစ္စည်း | ကျပ် | ၆၄၃၂.၀၀ | သန်း |
| (ဃ) ဟိုတယ်လုပ်ငန်းသုံးပစ္စည်း | ကျပ် | ၁၃၁၇.၉၆ | သန်း (US$ ၉၂၃.၀၈ သန်း အပါအဝင်) |

၅။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်းမှ ဝန်ထမ်း (၉၉)ဦး ခန့်ထားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်းဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၀၈,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ (၆)နှစ်မြောက်တွင် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်နိုင်မှု အခြေအနေမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| အခန်း အမျိုးအစား | အခန်း အရေ အတွက် | ဝန်ဆောင်မှု ပေးမည့် အရေအတွက် နှုန်း (အခန်း) | | ဝန်ဆောင်ခနှုန်း (တစ်နှစ်) | |
|---|---|---|---|---|---|
| | | US$ | ကျပ် | US$ | ကျပ် |
| Deluxe | ၄၀ | ၉၀ | ၉၉၀၀၀ | ၂၇၅,၉၄၀ | ၁၃၀,၀၈၆,၀၀၀ |
| Beach Front Villa | ၂၆ | ၁၈၀ | ၁၉၈၀၀၀ | ၃၅၈,၇၂၂ | ၁၆၉,၁၁၁,၈၀၀ |
| Pool Suite Villa | ၁၅ | ၁၈၀ | ၁၉၈၀၀၀ | ၂၀၆,၉၅၅ | ၉၇,၅၆၄,၅၀၀ |
| Presidential Villa | ၁ | ၃၅၀ | | ၃၅,၇၇၀ | - |
| စုစုပေါင်း | ၈၂ | | | | |

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**အမေရိကန်တစ်ဒေါ်လာ= ၁၂၀၀ ကျပ်**

| စဉ် | အကြောင်းအရာ | ကျပ် (သန်း) | US$ (သန်း) | ညီမျှသော ကျပ်(သန်း) | စုစုပေါင်းကျပ် (သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၄၃၀.၄၈၇ | ၀.၉၅၅ | ၁၁၄၆.၀၀၀ | ၁၅၇၆.၁၇ |
| (ခ) | အသုံးစရိတ် | ၁၁၅.၈၄ | ၀.၈၂၀ | ၉၈၄.၀၀၀ | ၁၀၉၉.၈၄ |
| (ဂ) | အသားတင်အမြတ် | ၃၁၄.၆၄၇ | ၀.၁၃၅ | ၁၆၂.၀၀၀ | ၄၇၆.၃၃ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၅၈.၇၇ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၂၁.၅၂ သန်း၊ US$ ၀.၀၅ သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၁၁)နှစ် (၆)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၉.၃၄ ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရခိုင်ပြည်နယ်အစိုးရအဖွဲ့။** Minor Myanmar Co., Ltd မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေး ဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင်မြေ (၁၁.၃၀)ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ အခန်း (၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့်က စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် တင်ပြခဲ့မှုအပေါ် လုပ်ထုံးလုပ်နည်းနှင့်ညီညွတ်ပါကကန့်ကွက်ရန်မရှိပါကြောင်း။ (နောက်ဆက်တွဲ-က)

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

(၁) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များ ချမှတ်ခြင်း၊ တည်ဆောက်ခြင်း လုပ်ငန်းအဆင့်ဆင့်တို့ အတွက် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ယူပူးပေါင်း ဆောင်ရွက်မှု (Corporate Social Responsibility-CSR) အား အသားတင် အမြတ်ငွေ၏ ၂ % အား ထည့်ဝင်သွားရန် အပါအဝင် ကတိကဝတ်များ၊ လုပ်ထုံးလုပ်ငန်းစီမံချက်များ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားရန်။

(၂) လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်)ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း( Initial Environmental Examination-IEE) ကို ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးသားတင်ပြရန်။

(၃) လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် အနည်းဆုံး ဖြစ်စေရန်နှင့် လူတို့၏ ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်နှင့် စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု (Environmental Management Plan-EMP)အား ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

**(အထက်ပါ သဘောထား မှတ်ချက်နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)အား Third party ဖြစ်သည့် E Guard Environmental Services Co., Ltd. မှ စတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း ၂၀၁၆ ခုနှစ် မတ် ၁၄ ရက်နေ့ ရက်စွဲဖြင့် ကုမ္ပဏီမှ တင်ပြထားပါသည်။)**

(ဂ) ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန **(နောက်ဆက်တွဲ-ဂ)**

(၁) Minor Myanmar Co., Ltd. မှ ငှားရမ်းမည့် အခန်းခနှုန်းထားတွင် Deluxe (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ ၉၀ ၊ မြန်မာကျပ်ငွေအနေနှင့် ကျပ် ၉၉,၀၀၀ ၊ Beach Front Villa (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ ၁၅၀ ၊ မြန်မာကျပ်ငွေအနေနှင့် ကျပ် ၁၆၅,၀၀၀ ၊Pool Suite Villa (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ ၁၅၀ ၊ မြန်မာကျပ်ငွေအနေနှင့် ကျပ် ၁၆၅,၀၀၀၊ Presidential Villa(၁)ခန်းလျှင် အမေရိ

ကန် ဒေါ်လာ ၃၅ဝ စသည်ဖြင့် နှုန်းများ သတ်မှတ် ဖော်ပြထားသဖြင့် အနည်းငယ် မြင့်မားသော ဈေးနှုန်းဖြစ်၍ ဌားရမ်းခနှုန်းထားများနှင့် အသုံးပြုမည့် ပစ္စည်းများ ပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ပါ ကြောင်း။

(၂) ဟိုတယ်လုပ်ငန်း လိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့် အချိုးညီ ခန့်အပ်ပြီး ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းဆိုင်ရာ သင်တန်း ဆင်း လက်မှတ်များ တင်ပြနိုင်ရန် လိုအပ်သဖြင့် ကြိုတင်စီမံဆောင်ရွက်ထားနိုင်ရန် နှင့် သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် ပတ်သက်ပြီး ရေဆိုး၊ အမှိုက်နှင့် အညစ်အကြေး စွန့်ပစ်မှု စနစ်များအား စနစ်တကျ စီမံဆောင်ရွက်ထားရန် လိုအပ်ပါ ကြောင်း။

**(ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာန၏ သဘောထားနှင့်အညီဆောင်** ရွက်မည်ဖြစ်ကြောင်း ၂၀၁၆ ခုနှစ် မတ်လ ၁၅ ရက်နေ့ရက်စွဲဖြင့် တင်ပြထားပါသည်။)

၁၀။ ကျပ်ငွေ အထောက်အထား အဖြစ် ဒေါ်အေးအေးမြင့် အမည်ဖြင့် AYA Bank တွင် (၂၉-၁-၂၀၁၆)ရက်စွဲဖြင့် စာရင်းဖွင့် ငွေလက် ကျန် ကျပ် ၁၉၀,၅၉၄,၅၁၃.၁၃ ရှိကြောင်းဖော်ပြထား ပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါကြောင်းနှင့် လုပ်ငန်းအသစ်ဖြစ်ပါကြောင်း၊ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် သန့်စင်ခန်းများအား အလုံအလောက် ထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ လုပ်ငန်းခွင် ပတ်ဝန်းကျင်အား ဝန်ထမ်းအင်အား အပြည့်ဖြင့် အချိန်ပြည့် သန့်ရှင်းရေးလုပ်ငန်းများ ဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံ့များ မရှိအောင် ရေနုတ်မြောင်းများကို ရေစီးရေလာကောင်းမွန်အောင် ပြုပြင် ခြင်း လုပ်ငန်းများကို အစဉ်ပြုလုပ်မည် ဖြစ်ပါကြောင်း၊ ဆောက်လုပ်ရေး လုပ်ငန်းများမှ ထွက်ရှိသည့် စွန့်ပစ်ပစ္စည်းများ၊ မြေစာများနှင့် အခြားစွန့်ပစ်ပစ္စည်းများအား ပတ်ဝန်းကျင် မထိခိုက်စေရန် နှင့် စွန့်ပစ်ပစ္စည်း အမျိုးအစား အလိုက်သတ်မှတ် နေရာများတွင် စနစ်တကျ စွန့်ပစ်နိုင်ရန် စီစဉ်ထား မည်ဖြစ်ပါကြောင်း၊ ရေဆိုးများအား သန့်စင်အောင် နိုင်ငံတကာသတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့် အညီ သန့်စင်ပြီးမှသာ စွန့်ပစ်ခြင်း၊ အမှိုက်များကို စနစ်တကျ စွန့်ပစ်ခြင်းနှင့် သက်ဆိုက်ရာ အဖွဲ့ အစည်းများမှ ချမှတ်ထားသော စည်းမျဉ်းစည်းကမ်းများကို လိုက်နာမည် ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင် စီမံချက်ရေးဆွဲ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း နှင့် ဟိုတယ်အတွင်း သတ်မှတ်နေရာများတွင် မီးသတ် ဆေးဗူးများ ချိတ်ဆွဲထားရှိမည့် အပြင် မီးလောင်မှုဖြစ်ပွားပါက အလိုအလျောက် ပေါက်ကွဲမီးငြိမ်းစေ မည့် Auto Fire Ball, Sprinkler, Smoke Detector တပ်ဆင်ခြင်းတို့နှင့် ဟိုတယ်ဝန်ထမ်းများအား မီးသတ်သင်တန်းများသို့စေလွှတ်ပြီး အရေးပေါ်အခြေအနေ မီးငြိမ်းသတ်နိုင်ရန် သင်တန်းများပေးသွား မည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၂။ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှ CSR အတွက် အသားတင်အမြတ်၏ ၂ ရာခိုင်နှုန်း သုံးစွဲမည်ဖြစ်ပြီး ပညာရေး၊ ကျန်းမာရေး၊ လမ်းပမ်းဆက်သွယ်ရေးနှင့် လူမှုရေးနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး လုပ်ငန်းများအတွက် သုံးစွဲ ဆောင်ရွက်ပေးမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာချောင်ချိရေးနှင့် သာယာပျော်ရွှင်ရေးအတွက် ရက်မှန်ကြေး၊ အချိန်ပိုကြေးနှင့် နှစ်သစ်ကူးကာလများတွင် ဝန်ထမ်းများ လျှော့တန်းသုံးစွဲနိုင်ရေး နှစ်သစ်ကူး အပိုဆုကြေးများ ထုတ်ပေးခြင်း၊ ဘာသာရေးနှင့် ဆက်စပ်၍ နေ့ကြီးရက်ကြီးများတွင် ကုသိုလ်ကောင်းမှုပြုနိုင်ရန် အလုပ်ပိတ်ရက်ပေးခြင်းနှင့် ၎င်းပြင် ဝန်ထမ်းများ၏ လုပ်ရည်ကိုင်ရည်ပေါ်မူတည်ပြီး လုပ်သက်ဆုကြေးများ၊ အပိုဆောင်းဆုကြေးများနှင့် အချိန်ပိုကြေးများ ပေးအပ်ခြင်း၊ ဝန်ထမ်းများ ကျန်းမာရေးအတွက် ကျန်းမာရေးဝန်ထမ်းထားရှိသွားမည်ဖြစ်ပြီး အရေးပေါ် ဆေးကုသရေးနှင့် လိုအပ်သော ဆေးဝါးများထားရှိပေးခြင်း၊ မြို့နယ်လူမှုဖူလုံရေးအသင်း၏ အသင်းဝင်ရောက်စေမည်ဖြစ်ပြီး နာမကျန်းဖြစ်ပါကရသင့်သည့် ဝန်ထမ်းအခွင့်အရေးများ အပြည့်အဝ ခံစားခွင့်ပေးပြီး ဆေးကုသမှု ခံယူစေခြင်း၊ ဝန်ထမ်းများ၏ စားသောက်ရေးကိုတာဝန်ယူသွားမည်ဖြစ်ခြင်း၊ ဝန်ထမ်းများ၏ တကိုယ်ရေး သန့်ရှင်းရေးများအတွက် သန့်ရှင်းသည့် ရေလုံလောက်စွာ ရရှိရေး စီစဥ်ဆောင်ရွက် ပေးခြင်း၊ တည်ဆောက်ရေး လုပ်ငန်းခွင်မှ ထွက်ရှိလာသော အမှိုက်သရိုက်များအား သက်ဆိုင်ရာ စည်ပင်သာယာရေး ကော်မတီ၏ အစီအမံများအတိုင်း လိုက်နာစွန့်ပစ်သွားမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၄။ လုပ်ငန်း ဆောင်ရွက်ရာတွင် လိုအပ်သော လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူဆောင်ရွက်သွားမည် ဖြစ်ပြီးမရရှိသည့် အချိန်တွင် ကိုယ်ပိုင် မီးစက်(350/250/150 KVA) ကို အသုံးပြုဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ဇ၊ ည) အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်)သက်သာခွင့်များကိုကော်မရှင်သို့ တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

**စိစစ်တင်ပြချက်**

၁၆။ (က) ငပလီကမ်းခြေရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင်မြေ ဖြစ် သည့် ဇီးဖြူကုန်းမြေ ၃၅.၅၃ ဧက၊ ရွှေဝါချိုင်ဟိုတယ်မြေ ၆၃.၀၅ ဧက၊ မွေးရေငါးပြတိုက် ၄.၄၃ ဧကပေါ်ရှိ ကုမ္ပဏီ ၉ ခုမှ ဟိုတယ်များ တည်နေရာပြ ယူတီအမ် မြေပုံအား တင်ပြထားပါသည်။

(ခ) Max Myanmar Hotel Co., Ltd. နှင့် စစ်ထောက်ချုပ်ရုံးတို့၏ မူလချုပ်ဆိုထားသည့် B.O.Tစာချုပ်အားရုပ်စဲခွင့်ပြုကြောင်းနှင့်Minor Myanmar Co., Ltd နှင့် စစ်ထောက်ချုပ်ရုံးတို့ B.O.T စာချုပ် ချုပ်ဆို၍ လုပ်ငန်းဆောင်ရွက်ခွင့်ပြုကြောင်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် မှ စစ်ထောက်ချုပ်ရုံးသို့ အကြောင်းကြားစာ ပေးပို့ထားပါသည်။

(ဂ) ပြည်ပမှ အောက်ပါ စက်ပစ္စည်းများစာရင်းအား တင်သွင်းလိုကြောင်း တင်ပြထားပါသည်-

| အမျိုးအစား | အရေအတွက် | ဈေးနှုန်း US$ | စုစုပေါင်း US$ |
|---|---|---|---|
| 350 KVA Generator | ၁ | ၄၀,၀၀၀ | ၄၀,၀၀၀ |
| 250 KVA Generator | ၁ | ၂၈,၀၀၀ | ၂၈,၀၀၀ |
| 150 KVA Generator | ၁ | ၂၂,၀၀၀ | ၂၂,၀၀၀ |
| Buggy | ၂၀ | ၂,၂၀၀ | ၄၄,၀၀၀ |
| Grass Cutter | ၃ | ၇၈၀ | ၂,၃၄၀ |
| Key Card System | ၁ | ၂၅,၀၀၀ | ၂၅,၀၀၀ |
| စုစုပေါင်း | ၂၇ | | ၁၆၁,၃၄၀ |

(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ငပလီကမ်းခြေတွင် ဟိုတယ်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ခွင့်ပြုမိန့်ထုတ်ပေးခဲ့သည့် လုပ်ငန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ကုမ္ပဏီအမည်/ ခွင့်ပြုမိန့် အမှတ် | လုပ်ငန်း အမျိုးအစား | တည် နေရာ |
|---|---|---|---|
| ၁ | ပုဂံသံတဲဟိုတယ်အုပ်စု ကုမ္ပဏီ လီမိတက် ၇၀၁/ ၂၀၀၉ (၃၀-၆-၂၀၀၉) | B.O.T စနစ်ဖြင့် ဟိုတယ် လုပ်ငန်း | ရခိုင်ပြည်နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (VT-40) |
| ၂ | Eden Hotels & Resort Co., Ltd. ၁၀၂၃/၂၀၁၅ (၇-၁-၂၀၁၅) | B.O.T စနစ်ဖြင့် ကြယ်ငါးပွင့် အဆင့်ရှိ နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း | ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ အမှတ်(၃၈) ရပ်ကွက်၊ ဇီးဖြူကုန်း ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၂၀၁) ကွန်းခြံကွင်း၊ ဦးပိုင် အမှတ် - ၁၈-က၊င၊ ၂၆-က၊ ၂၆-ခ၊ ဃ၊င၊ ၂၇-က-ခ-ဃ၊ ၂၈ |
| ၃ | Adventure Myanmar Tour & Incentives Co., Ltd. ၁၀၆၉/၂၀၁၅ (၂၄-၇-၂၀၁၅) | B.O.T စနစ်ဖြင့် ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရခိုင်ပြည်နယ်၊သံတွဲ ခရိုင်၊ သံတွဲမြို့နယ်၊ အမှတ်(၃၈) ရပ်ကွက်၊ ဇီးဖြူကုန်း ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၂၀၂) ၊ ဦးပိုင် အမှတ် ၆၅-က၊ ၁၀၆၊ ၁၀၇-ဃ၊င၊ စ၊ ၁၀၈-က၊ခ၊ ငပလီကမ်းခြေ |
| ၄ | Fortune International Limited ၁၁၀၉ / ၂၀၁၅ (၁၆-၁၂-၂၀၁၅) | B.O.T စနစ်ဖြင့် အခန်း (၁၀၀) ပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာအုပ်စု၊ မြေကွက် အမှတ်-၃၈၊ ကွင်းအမှတ်- ၂၀၁ (ကွန်းခြံ ကွင်း)၊ ဦးပိုင် အမှတ်-စ/ ၂၁+ ဆ/ ၂၁+ |

| စဉ် | ကုမ္ပဏီအမည်/ ခွင့်ပြုမိန့် အမှတ် | လုပ်ငန်း အမျိုးအစား | တည် နေရာ |
|---|---|---|---|
| | | | ဃ/၂၀+ ခ/၂၀+ က/၂၂+ ခ/၂၂ ရှိမြေ ဧရိယာ (၂.၆၃) ဧကနှင့် ကွင်း အမှတ်-၂၀၂ (ဇီးဖြူကုန်းကွင်း)၊ ဦးပိုင် အမှတ်- N/၁၄+ က/၉၅/ ၁+ က/၉၅/၂+ ၉၆ ရှိမြေဧရိယာ (၃.၀၂) ဧက |
| ၅ | Jade Marina Resort Hotel Co., Ltd. | B.O.T စနစ်ဖြင့် နိုင်ငံတကာ အဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်း | ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ မြပြင်ကျေးရွာ၊ ကွင်းအမှတ် (၄၀)၊ မြေကွက် အမှတ် (၁/၂/ ၁၀၆/ ၁၀၇) ရှိ မြေဧရိယာ(၆.၆၀)ဧက |

ဆုံးဖြတ်ရန်အချက်

၁၇။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက် အမှတ်(၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် မြေဧရိယာ(၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိုစွအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နောက်ဆက်တွဲ(က)





ပြည်နယ်အစိုးရအဖွဲ့

ရခိုင်ပြည်နယ်

စာအမှတ်၊( ၁၀၁ )/၄/၇ - ၂(စီးပွား) အဖရ(ရခိုင်)

ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၂ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံသည့်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈-၂-၂၀၁၆)ရက်စွဲပါ စာအမှတ်၊ ရက-၄ / မ-၁၅၂၉ / ၂၀၁၆ (၁၇၈)

Minor Myanmar Co.,Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဓီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး ပိုင်မြေ(၁၁.၃၀)ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့်က စစ်ထောက်ချုပ်ရုံးမှ ထုတ်ဆင့် တင်ပြခဲ့မှုအပေါ် လုပ်ထုံးလုပ်နည်းနှင့်ညီညွတ်ပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

(မြအောင်)
ခေတ္တပြည်နယ်ဝန်ကြီးချုပ်

မိတ္တူကို
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၊ နေပြည်တော်
ပြည်နယ်ဝန်ကြီးချုပ်ရုံး၊ ရခိုင်ပြည်နယ်၊ စစ်တွေမြို့
ရုံးလက်ခံ
မျှောစာတွဲ

SNaing -77



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/၀၁(၄၂/၁၆)
ရက် စွဲ၊ ၂၀၁၆ခုနှစ် မတ် လ ၇ ရက်

M3-478
7/3

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ Minor Myanmar Co.,Ltd မှ BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၅၂၉/ ၂၀၁၆(၁၇၇)

၁။ Minor Myanmar Co.,Ltd မှ ရခိုင်ပြည်နယ်သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်း ကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ် ရုံးပိုင်မြေ ၁၁.၃၀ ဧကတွင် BOT စနစ်ဖြင့် မြေငှားရမ်း၍ အခန်း(၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင် ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြား ပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)နှင့် သက်တမ်းတိုး (၁၀)နှစ်(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၂)နှစ်ဖြစ်ကြောင်း၊ Deluxe (၄၀)ခန်း၊ Beach Front Villa (၂၆)ခန်း၊ Pool Suite Villa(၁၅)ခန်းနှင့် Presidential Villa(၁)ခန်း၊ စုစုပေါင်း(၈၂)ခန်းကိုဖွဲ့စည်းတည်ဆောက်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများ သက်သာချောင်ချိရေးနှင့်သာယာပျော်ရွှင်ရေးအစီအမံများ၊ မီးဘေးကြိုတင်ကာ ကွယ်မှုအစီအစဉ်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးဆိုင်ရာတာဝန်ယူပူးပေါင်းဆောင်ရွက်မှု( Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်သွင်းအသုံးပြုသွားမည်ဖြစ် ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ဆောက်လုပ်

ရေးလုပ်ငန်းများမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများနှင့်မြေစာများအား ပတ်ဝန်းကျင်မထိခိုက်စေရန် စွန့်ပစ်ပစ္စည်းအမျိုးအစားအလိုက် သတ်မှတ်နေရာများတွင် စနစ်တကျစွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် သန့်စင်ခန်းများ အလုံအလောက်ထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ ရေနုတ်မြောင်းများမှ အနံ့အသက်များမရှိစေရေး ရေနုတ်မြောင်းများကို ရေစီးရေလာကောင်းမွန်အောင်ပြုပြင်ခြင်းလုပ်ငန်းများဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ Minor Myanmar Co.,Ltd မှ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းများဆောင်ရွက်ခြင်းကြောင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံးစက်/ ယာဉ်ယန္တရားများမှ ထွက်ရှိမည့် ဆူညံသံများ၊ စက်ဆီ၊ ချောဆီ၊ အမဲဆီများကြောင့် ပတ်ဝန်းကျင်ရေထု၊ မြေထု၊ လေထုညစ်ညမ်းမှုများဖြစ်ပေါ်လာနိုင်ခြင်း၊ ဟိုတယ်လုပ်ငန်းများလည်ပတ်ချိန်တွင် ထွက်ရှိလာမည့်စွန့်ပစ်ရေဆိုး၊ မိလ္လာရေဆိုးအညစ်အကြေးများအား စနစ်တကျမစွန့်ပစ်ပါက ပတ်ဝန်းကျင်မြေထု၊ ရေထုညစ်ညမ်းနိုင်ခြင်း၊ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများဖြစ်သည့် စားသောက်ခန်း၊ မီးဖိုချောင်များမှထွက်ရှိလာမည့် အစားအသောက်အညစ်အကြေးများနှင့် ပလပ်စတစ်ကြွတ်ကြွတ်အိတ်များကို စနစ်တကျမစွန့်ပစ်ပါက မြေကြီးတွင် ဆွေးမြေ့ရန်အချိန်ကြာမြင့်သဖြင့် မြေထုညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Minor Myanmar Co.,Ltd မှ BOT စနစ်ဖြင့် နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံချက်များချမှတ်ခြင်း၊ တည်ဆောက်ခြင်းလုပ်ငန်း အဆင့်ဆင့်ကို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ယူပူးပေါင်းဆောင်ရွက်မှု ( Corporate Social Responsibility-CSR ) အား အသားတင်အမြတ်ငွေ၏ (၂%)အား ထည့်ဝင်သွားရန်အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်း

စီမံချက်များအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားရန်။

( ခ ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း ( Initial Environmental Examination – IEE ) ကို ဆောင်ရွက်ပြီးအစီရင်ခံစာရေးသားတင်ပြရန်။

( ဂ ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်နှင့် လူတို့၏ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့်လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်နှင့် စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan - EMP )အား ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်းထားသောဥပဒေ၊ နည်းဥပဒေ၊ ညွှန်ကြားချက်များနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

( င ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ



နောက်ဆက်တွဲ (ဂ) ၁၁၆



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈ - ဂ (အုပ်ချုပ်မှု)/နပတ/ ၄၅၈
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၉ ရက်။

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈-၂-၂၀၁၆) ရက်စွဲပါ စာအမှတ် ရက-၄/မ-၁၅၂၉/၂၀၁၆ (၁၇၉)

၁။ Minor Myanmar Co.,Ltd မှရခိုင်ပြည်နယ်၊သံတွဲခရိုင်၊သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင် ငပလီကမ်းခြေရှိမြေ(၁၁.၃၀)ဧကတွင်BOTစနစ်ဖြင့်ငှားရမ်း၍အခန်း(၈၂)ခန်းပါ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူဒေါ်အေးအေးမြင့်မှစစ်ထောက်ချုပ်ရုံးမှတဆင့်အဆိုပြုတင်ပြခြင်းအပေါ်သဘောထားမှတ်ချက်ပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ငပလီကမ်းခြေကိုအဆင့်မြင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးရေးဇုန်တစ်ခုအဖြစ်ဖော်ထုတ်ရန်ဆောင်ရွက်ခြင်း၊ မြန်မာနိုင်ငံသို့ကမ္ဘာလှည့်ခရီးသည် ရောက်ရှိမှုသည် ပိုမိုတိုးတက်လာပြီး ငပလီကမ်းခြေ၌လည်း နိုင်ငံတကာအဆင့်မီဟိုတယ်အခန်းများ လိုအပ်ခြင်းတို့ကြောင့်ယခုကဲ့သို့ Minor Myanmar Co.,Ltd မှ အခန်း(၈၂)ခန်းပါ ဟိုတယ်အား တည်ဆောက်ဆောင်ရွက်မည်ဖြစ်ခြင်းနှင့်ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးမှ တရားဝင်ငှားရမ်းဆောင်ရွက်မည်ဖြစ်ခြင်းတို့ကြောင့် ကန့်ကွက်ရန်မရှိပါ။

၃။ ကမ်းခြေဒေသတွင်တည်ဆောက်မည်ဖြစ်၍ စနစ်တကျကြီးကြပ်ဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်သဖြင့်အခန်း(၈၂)ခန်းပါဟိုတယ်တည်ဆောက်ခြင်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ ရခိုင်ပြည်နယ်အစိုးရအဖွဲ့နှင့် ရခိုင်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့တို့၏ ခွင့်ပြုချက်များတင်ပြဆောင်ရွက်သွားရန် လိုအပ်ပါသည်။

C-1-3Remark-LH

၄။ ဟိုတယ်တည်ဆောက်ရေးအတွက် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ (၁-၁-၂၀၁၅) ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် (၂/၂၀၁၅) ၏ ကမ်းခြေခရီးစဉ်ဒေသရေရှည် တည်တံ့ခိုင်မြဲရေးအတွက် လိုက်နာဆောင်ရွက်ရန်အချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားရန်လိုအပ်ပါသည်။ အထူးသဖြင့် သတ်မှတ်အမြင့်ပေထက်ပို၍ ထပ်ခိုးတင်ခြင်း၊ အမိုးထပ်တင်ခြင်းများ၊တည်ဆောက်ရေးလုပ်ငန်းများတွင် အသုံးပြုရန် ကမ်းခြေသောင်များ၌ သဲများတူးခြင်းများအားမပြုလုပ်ရန်လိုအပ် ပါသည်။

၅။ Minor Myanmar Co.,Ltd မှဌားရမ်းမည့် အခန်းခ နှုန်းထားတွင် Deluxe (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၉၀) မြန်မာငွေကျပ်အနေနှင့်ကျပ်(၉၉၀၀၀)၊ Beach front Villa (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၁၅၀)မြန်မာငွေကျပ်အနေနှင့်ကျပ်(၁၆၅၀၀၀)၊Pool Suite Villa (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၁၅၀)မြန်မာငွေကျပ်အနေနှင့်ကျပ်(၁၆၅၀၀၀)၊ Presidential Villa (၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၃၅၀)စသည်ဖြင့်နှုန်းများ သတ်မှတ်ဖော်ပြထားသဖြင့် အနည်းငယ်မြင့်မားသောဈေးနှုန်းဖြစ်၍ ငှားရမ်းခနှုန်းထားများနှင့်အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့်ဝန်ဆောင်မှုများလည်းလျော်ကန် သင့်တင့်ရန် လိုအပ်ပါသည်။

၆။ Minor Myanmar Co., Ltd မှဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် အသုံးပြုသွားမည့်ပြည်ပမှတင်သွင်းမည့်တည်ဆောက်ရေးပစ္စည်းများ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အခွန်သက်သာခွင့်မှာ ကော်မရှင်၏အဆုံးအဖြတ်သာရယူရမည်ဖြစ်ပါကြောင်းတင်ပြအပ်ပါသည်။

၇။ ဟိုတယ်လုပ်ငန်းလိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့်အချိုးညီ ခန့်အပ်မည့်ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောက်မှုလုပ်ငန်းဆိုင်ရာသင်တန်းဆင်းလက်မှတ်များ တင်ပြနိုင်ရန်လိုအပ်သဖြင့် ကြိုတင်စီမံဆောင်ရွက်ထားနိုင်ရန်နှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်ပြီးရေဆိုး၊ အမှိုက်နှင့်အညစ်အကြေးစွန့်ပစ်မှုစနစ်များအားစနစ်တကျ စီမံဆောင်ရွက်ထားရန်လိုအပ်ပါသည်။

၈။ ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေနှင့်အညီ ဟိုတယ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့်ကို၄င်းဝန်ကြီးဌာနသို့ ဆက်လက်လျှောက်ထားရယူသွားရန်လိုအပ်ပါကြောင်းကိုလည်းတင်ပြအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(ဒေါက်တာစိုင်းကျော်အုန်း၊ဒုတိယဝန်ကြီး)

မိတ္တူကို - ရုံးလက်ခံ/မျှော

C-' ~komark -LH

MINOR MYANMAR COMPANY LIMITED.

မိုင်နာမြန်မာကုမ္ပဏီလီမိတက်

၏

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

သို့

( BOT) စနစ်ဖြင့်

ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာရှိ

ကာကွယ်ရေးဝန်ကြီးဌာနပိုင်

မြေ ( ၁၁.၃ ) ဧကတွင်

နိုင်ငံတကာအဆင့်မီဟိုတယ်လုပ်ငန်း ဆောင်ရွက်ခြင်း

လုပ်ငန်းဆောင်ရွက်ခွင့်အဆိုပြုလွှာ



# E Guard Environmental Services Company Limited

Building 7+1 D, Room 301, Parami Condo, Hlaing Township, Yangon, 11051, Myanmar
Tel: 95 1 654857, 95 9 421108946. Email info@eguardservices.com www.eguardservices.com




သို့

Minor Myanmar Co., Ltd.

စာအမှတ် ။ ။ 328 (ဆ) /E Guard /MResidence/ 2014
ရက်စွဲ ။ ။ ၂၀၁၆ ခုနှစ်၊ မတ်လ၊ (၁၅) ရက်၊

အကြောင်းအရာ ။ ။ လုပ်ငန်းစတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း တင်ပြခြင်း၊

၁။ Minor Myanmar Co., Ltd. နှင့် E Guard Environmental Services Co., Ltd. တို့ ၂၀၁၆ ခုနှစ်၊ မတ်လ၊ (၁၅) ရက်နေ့တွင် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ငွေဆောင်ကုန်းကျေးရွာ၊ကွင်းအမှတ် (၂၀၂)၊ မြေကွက်အမှတ် (၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင် မြေဧရိယာ (၁၁.၃)ဧကတွင် အဆင့်မြင့် ဟိုတယ်လုပ်ငန်း ဆောက်လုပ်ရန်အတွက် Initial Environmental Examination (IEE) နှင့်Formulation of Enrironmental Management Plan (EMP) ရေးဆွဲရန် စာချုပ်ချုပ်ဆိုခဲ့ကြပါသည်။

၂။ ယင်းလုပ်ငန်းများအား ၂၀၁၆ ခုနှစ်၊ မတ်လ၊ (၁၅) ရက်နေ့တွင် စတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Aye Thiha
Managing Director
E Guard Environmental Services




MINOR MYANMAR Company Limited
No.27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar.
Phone : +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax: + 95 1 502 906, 502 907,

---

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ် ၊ မနမမ (စမ-ပရဂ) ၀၀၇ / ၂၀၁၆
ရက်စွဲ ။ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ( )ရက်

အကြောင်းအရာ ။ ။ **အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၆/၂၀၁၆) အစည်းအဝေး ဆုံးဖြတ်ချက်အရ ပြင်ဆင်ပြီးဖြစ်ပါကြောင်း ပြန်လည်တင်ပြခြင်း။**

ရည်ညွှန်းချက် ။ ။ **၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၅) ရက် နေ့စွဲပါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ စာအမှတ် ၊ ရက -၄/မ-၁၅၂၉/၂၀၁၆ (၂၁၇)။**

၁။ Minor Myanmar Co., Ltd. မှ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ် (၂၀၂)၊ မြေကွက် အမှတ် (၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင်မြေ (၁၁. ၃၀)ဧကတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ အခန်း (၈၂)ခန်းပါ နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန်အတွက် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးမြင့်မှ စစ်ထောက်ချုပ်ရုံးမှ တစ်ဆင့် ရည်ညွှန်းပါစာဖြင့် အဆိုပြုချက်တင်ပြခြင်းကို အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၆/၂၀၁၆) (၈. ၂. ၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ အောက်ပါအတိုင်း ဆုံးဖြတ်ခဲ့ပါသည်။

(က) ကာကွယ်ရေးဝန်ကြီးဌာန စစ်ထောက်ချုပ်ရုံးမှ မြေနှင့် ပတ်သက်သည့် အထောက်အထား တင်ပြရန်။

(ခ) B.O.T စနစ်ဖြင့် ချုပ်ဆိုမည့် စာချုပ် (မူကြမ်း) အပေါ် စိစစ်၍ ပြန်လည်တင်ပြရန်။

၂။ သို့ဖြစ်ပါ၍ အထက်ပါဆုံးဖြတ်ချက်အား ပြင်ဆင်ပြီး ဖြစ်ပါကြောင်း ရိုသေစွာ တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ဒေါ်အေးအေးမြင့်
အုပ်ချုပ်မှုဒါရိုက်တာ
Minor Myanmar Co.,Ltd

မိတ္တူကို - ရုံးလက်ခံ




MINOR MYANMAR Company Limited
No.27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar.
Phone : +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax: + 95 1 502 906, 502 907,

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

စာအမှတ်။ ။ မနမမ(စမ-ပရဂ) ၀၀၄/၂၀၁၆
ရက်စွဲ ။ ။ ၂၀၁၆ ခုနှစ်၊ မတ်လ( )ရက်

**အကြောင်းအရာ။ ။ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ် ( ၂၀၂)၊ မြေကွက်အမှတ်(၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင် မြေဧရိယာ ( ၁၁.၃ )ဧက တွင် အခန်း (၈၂) ခန်းပါ ဟိုတယ်လုပ်ငန်းအတွက် ဝန်ခံကတိပြုခြင်း။**

**ရည်ညွှန်းချက် ။ ။ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၂၃ )ရက် နေ့စွဲပါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ စာအမှတ်- ရက-၄/မ-၁၅၂၉/၂၀၁၆ ( ၂၈၄-င )**

ကျွန်မတို့၏ Minor Myanmar Co.,Ltd သည် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ် ( ၂၀၂ )၊ မြေကွက်အမှတ် (၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံးပိုင်မြေ ( ၁၁.၃)ဧက တွင် B.O.T စနစ်ဖြင့် အခန်း ( ၈၂ )ခန်းပါ နိုင်ငံတကာအဆင့်မီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းအတွက် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အရ-

(၁) ငှားရမ်းခနှုန်းထားများနှင့် အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့်ဝန်ဆောင်မှုများ လျော်ကန်သင့်မြတ်ရန်။

(၂) ဟိုတယ်လုပ်ငန်းလိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့် အချိုးညီခန့်အပ်ပြီး ဝန်ထမ်းအားလုံး သည် ဟိုတယ်ဝန်ဆောင်မှု သင်တန်းဆင်းလက်မှတ်များ တင်ပြနိုင်ရန်အတွက် ကြိုတင်စီမံဆောင်ရွက်ရန်နှင့်

(၃) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်ပြီး ရေဆိုး၊ အမှိုက်နှင့် အညစ်အကြေး စွန့်ပစ်မှုများအား စနစ်တကျစီမံဆောင်ရွက်ထားခြင်းတို့အား လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ဒေါ်အေးအေးမြင့်
အုပ်ချုပ်မှုဒါရိုက်တာ
Minor Myanmar Co.,Ltd

မိတ္တူ - ရုံးလက်ခံ



MINOR MYANMAR Company Limited
No.27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar.
Phone : +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax: + 95 1 502 906, 502 907,

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ် ၊ မနမမ (စမ-ပရဂ) ၀၀၂/ ၂၀၁၆
ရက်စွဲ ။ ။ ၂၀၁၆ ခုနှစ်၊ မတ်လ (၁၄)ရက်

**အကြောင်းအရာ ။ ။ ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ် ( ၂၀၂)၊ မြေကွက်အမှတ်(၆) ရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင် မြေဧရိယာ ( ၁၁ . ၃ )ဧက တွင် အခန်း (၈၂) ခန်းပါ ဟိုတယ်လုပ်ငန်းအတွက် ဝန်ခံကတိပြုခြင်း။**

**ရည်ညွှန်းချက် ။ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ( ၁၀ )ရက် နေ့စွဲပါ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ စာအမှတ်- ရက-၄/မ-၁၅၂၉/၂၀၁၆ ( ၃၆၅ )။**

ကျွန်မတို့၏ Minor Myanmar Co.,Ltd သည် ရခိုင်ပြည်နယ်၊ သံတွဲခရိုင်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ် ( ၂၀၂ )၊ မြေကွက်အမှတ် (၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာန၊ စစ်ထောက်ချုပ်ရုံး ပိုင်မြေ ( ၁၁ . ၃)ဧက တွင် B.O.T စနစ်ဖြင့် အခန်း ( ၈၂ )ခန်းပါ နိုင်ငံတကာအဆင့်မှီဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ သဘောထားနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု (Enviromental Management Plan - EMP ) အား (၃) လအတွင်း တင်ပြမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြု အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

ဒေါ်အေးအေးမြင့်
အုပ်ချုပ်မှုဒါရိုက်တာ
Minor Myanmar Co.,Ltd

မိတ္တူကို - ရုံးလက်ခံ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)
စစ်ထောက်ချုပ်ရုံး

စာအမှတ်၊ ၉၀၄/မသ-ဟိုတယ်/ထောက်၅က
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိမြေ(၁၁. ၃၀)ဧကအား ဟိုတယ်လုပ်ငန်းလုပ်ကိုင်ရန်အတွက်Minor Myanmar Co.,Ltdသို့ ငှားရမ်းခွင့် တင်ပြခြင်း**

၁။ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၁၁. ၃၀)ဧကအားငှားရမ်း၍ဟိုတယ်လုပ်ငန်းများတည်ဆောက်လုပ်ကိုင်ရန်အတွက် **Minor Myanmar Co.,Ltd.** မှ အောက်ပါအတိုင်းတင်ပြလာခဲ့ပါသည်-

(က) **ကုမ္ပဏီအမည်။ Minor Myanmar Co.,Ltd**။

(ခ) **အဆိုပြုမြေ။** ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိမြေ(၁၁. ၃၀)ဧက။

(ဂ) **ဆောင်ရွက်မည့်လုပ်ငန်း။** ဟိုတယ်လုပ်ငန်းများ။

(ဃ) **ရင်းနှီးမြှုပ်နှံမှုပမာဏ။** မြန်မာငွေကျပ်သန်း(၁၀၉၁၁)သန်း။

(င) **ငှားရမ်းလိုသည့်နှစ်။** (၅၀+၁၀+၁၀)နှစ်(၇၀)( B.O.T )

(စ) **မြေငှားရမ်းခ။** မြေငှားရမ်းခကို အောက်ပါအတိုင်းပေးသွင်းမည်ဖြစ်ပါသည်-

(၁) မြေ(၁၁. ၃၀)ဧကအတွက် မြေအသုံးချမှု ပရီမီယံကြေး မြေ(၁)ဧကလျှင်မြန်မာငွေကျပ် (၂၅၀၀)သိန်းနှုန်းဖြင့် မြေ(၁၁. ၃၀)ဧကအတွက် ကျသင့်ငွေ(၂၈၂၅၀)သိန်းအား စာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍(၄)ကြိမ်ခွဲပြီးပေးသွင်းပါမည်။

(၂) မြေငှားရမ်းခအဖြစ်မြန်မာငွေကျပ်(၈၁၄. ၁၆၅)သိန်းကို(၁)နှစ်လျှင်(၁)ကြိမ် ပေးသွင်းပါမည်။

၂။ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ မြေကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင် မြေ(၁၁. ၃၀)ဧကအားငှားရမ်း၍ဟိုတယ်လုပ်ငန်းများတည်ဆောက်လုပ်ကိုင်ရန်အတွက် **Minor Myanmar Co.,Ltd.** သို့ ငှားရမ်းခွင့်နှင့်ပတ်သက်၍ကုန်သွယ်မှုမူဝါဒကောင်စီ၏၁၆-၈-၂၀၀၇ရက်စွဲပါစာအမှတ်၊ အမစ/ကသ/၃/၂၅(၅၈၀/၂၀၀၇)အရ သဘောတူခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။

Hotel(9)-78

၃။ **Minor Myanmar Co.,Ltd.**သို့ ငှားရမ်းမည့်မြေ(၁၁. ၃၀)ဧကမှာ အမှတ်(၅၅) ခြေလျင်တပ်ရင်း (တိုးချဲ့)တပ်ပိုင်မြေ ဇီးဖြူကုန်းမြေ(၃၅. ၅၃)ဧကသည် ပြည်ထဲရေးဝန်ကြီးဌာန၏ ၉-၈-၂၀၀၀ ရက်စွဲပါစာအမှတ်၊ ၂၀၀/၂-၄/ဦး၁နှင့် ၂၀၀/၂-၅/ဦး၁အရ တပ်ပိုင်မြေအမည်ပေါက်ရရှိပြီးဖြစ်ပါသည်။

၄။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ရင်းနှီးမြှုပ်နှံမှုဥပဒေသစ်ဖြင့် နှစ်ရှည်(၅၀+၁၀+၁၀)နှစ်(၇၀) ( B.O.T )စာချုပ်ချုပ်ဆိုနိုင်ရေး ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)ခွင့်ပြုချက်အရ **Minor Myanmar Co.,Ltd.** သို့ မြေငှားရမ်းခြင်းအတွက် စာချုပ်ချုပ်ဆိုနိုင်ရေးပြင်ဆင်ထားရှိပြီး စာချုပ်နှင့် ပတ်သက်၍ ရှေ့နေချုပ်ရုံး၏ အကြံပြုချက်များရရှိပြီးဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ်(၂၀၂)၊ အကွက်အမှတ်(၆)ရှိ ကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၁၁. ၃၀)ဧကအားငှားရမ်း၍**Minor Myanmar Co.,Ltd.**မှ ဟိုတယ် လုပ်ငန်းများတည်ဆောက်လုပ်ကိုင်ရန်အတွက် ငှားရမ်းခြင်းဆိုင်ရာလုပ်ငန်းများနှင့် ပတ်သက်၍ ရင်းနှီးမြှုပ်နှံမှု အချက်အလက်များအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် လိုအပ်သလို စိစစ်ခွင့်ပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

**ပူးတွဲပါ။** စာချုပ်(မူကြမ်း) (၁)စုံ။

စစ်ထောက်ချုပ် (ကိုယ်စား)

**မိတ္တူကို**

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန



MINOR MYANMAR Company Limited
No.27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar.
Phone : +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax: + 95 1 502 906, 502 907,

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၆ ခုနှစ်ဖေဖော်ဝါရီလ ( ၂ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်မတို့၏ **Minor Myanmar Co., Ltd.** သည် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ် (၂၀၂)၊ မြေကွက်အမှတ်(၄၊ ၅) ရှိကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၁၁.၃)ဧကတွင် အခန်း (၈၂) ခန်းပါ ကြယ်လေးပွင့်အဆင့်မီဟိုတယ်တည်ဆောက်၍ **B.O.T** စနစ်ဖြင့် ကနဦးနှစ် (၅၀) နှင့် တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း(၂) ကြိမ် တိုးမြှင့်ငှားရမ်းပြီးနိုင်ငံတကာ အဆင့်မီဟိုတယ်အဆောက်အဦများ တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

ထိုသို့လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လုပ်ငန်းဆောင်ရွက်နိုင်ပါရန်အတွက်ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန်အဆိုပြုလွှာ ( ) စုံကိုပေးပို့အပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်အေးအေးမြင့်
မန်နေဂျင်းဒါရိုက်တာ
**Minor Myanmar Co., Ltd.**



MINOR MYANMAR Company Limited

No.27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar.

Phone : +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax: + 95 1 502 906, 502 907,

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ ။ ။၂၀၁၆ ခုနှစ်ဖေဖော်ဝါရီလ ( ၂ ) ရက်။

အကြောင်းအရာ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)ပုဒ်မ(၂၀)တို့အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့် များခံစားခွင့်ပြုပါရန် လျှောက်ထားခြင်း။

မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသော ကျွန်မတို့၏ **Minor Myanmar Co., Ltd.** သည် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ် (၂၀၂)၊ မြေကွက်အမှတ်(၄၊ ၅) ရှိကာကွယ်ရေးဝန်ကြီးဌာနပိုင်မြေ (၁၁.၃)ဧကတွင် အခန်း (၈၂) ခန်းပါကြယ်လေးပွင့်အဆင့်မီဟိုတယ်တည်ဆောက်၍ **B.O.T** စနစ်ဖြင့် ကနဦးနှစ် (၅၀) နှင့် တစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် သက်တမ်း(၂) ကြိမ် တိုးမြှင့်ငှားရမ်းပြီးနိုင်ငံတကာ အဆင့်မီဟိုတယ်အဆောက်အဦ များ တည်ဆောက်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပါသည်။

ကျွန်တော်တို့၏ကုမ္ပဏီလီမိတက်သည်စုစုပေါင်းရင်းနှီးမြှုပ်နှံမှုအမေရိကန်ဒေါ်လာ (၁.၀၈) သန်းအပါအဝင်မြန်မာငွေကျပ် (၁၀၉၁၁.၀၀) သန်းကိုရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်၊ ၎င်းတွင်မြေအသုံးချခွင့် ပေးငွေကျပ် (၂၈၂၅.၀၀) သန်းအပါအဝင်လုပ်ငန်းလည်ပတ်ရန်ငွေသားကျပ် (၃၀၃၂.၆၆)သန်း၊ စက်ပစ္စည်းအမေရိကန် ဒေါ်လာ(၀.၁၆) သန်း၊ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းအမေရိကန် ဒေါ်လာ (၀.၉၂) သန်းအပါအဝင်ကျပ် (၁၃၁၇.၉၆) သန်းနှင့်အဆောက်အဦတန်ဖိုး ကျပ် (၆၄၃၂.၀၀) သန်း ကိုရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။

တည်ဆောက်မှုလုပ်ငန်းများအတွက်လိုအပ်သောဝန်ထမ်းများအား ပြည်တွင်းရှိအတတ် ပညာရှင်များဖြင့် တည်ဆောက်သွားမည်ဖြစ်ပြီး အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့် ရရှိပါကပြည်နယ် ဖြစ်သည့် ရခိုင်ပြည်နယ်ဒေသကြီး၏ဒေသဖွံ့ဖြိုးရေးကိုများစွာအထောက်အကူဖြစ်စေမည့်အပြင်ဒေသခံ ပညာတတ် လူငယ်များအတွက် အလုပ်အကိုင်သစ်များနှင့်လုပ်ငန်းအတွေ့အကြုံရရှိစေမည်ဖြစ်ပါသည်၊နိုင်ငံအတွက် နိုင်ငံခြားငွေရှာဖွေပေးနိုင်မည်



MINOR MYANMAR Company Limited

No.27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar.

Phone : +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax: + 95 1 502 906, 502 907.

ဖြစ်ပါသည်။ဒေသဆိုင်ရာဖွံ့ဖြိုးရေးတိုးတက်မှုနှင့် နိုင်ငံတော်အတွက်အခွန် ဘဏ္ဍာငွေများလည်းရရှိလာနိုင်မည် ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ဒေသဖွံ့ဖြိုးရေးနှင့်နိုင်ငံတော်အတွက်အခွန်ဘဏ္ဍာငွေများရရှိစေရန် အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက်အလုပ်အကိုင်သစ်များရှုရိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံ၏ဖွံ့ဖြိုးတိုးတက်ရေးတဖက်တလမ်းမှအထောက်အကူပြုနိုင်ရေးအတွက်လည်းကောင်း ကျွန်မတို့၏လျှောက်ထားခြင်း ကိုလက်ခံစဉ်းစားပေးပါရန်နှင့်မြန်မာနိုင်ငံသားများရင်းနှီးမြုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ပုဒ်မ(၂၀)အရအခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်တို့ကိုလည်း ခံစားခွင့်ပြုနိုင်ပါရန် လျှောက်ထားအပ်ပါသည်။

လျှောက်ထားလွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထား၊ စာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်-

(က) ကမကထပြုသူ၏လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်

(ခ) ဘဏ္ဍာရေးဆိုင်ရာအချက်အလက်များနှင့်တွက်ချက်မှုဇယားများ

(ဂ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးအထောက်အထားများ

(ဃ)(B.O.T) မြေငှားစာချုပ်(မူကြမ်း)

(င) ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း၊နှင့် ကုမ္ပဏီမှတ်ပုံတင်ပြီးကြောင်းအထောက်အထားများ

လေးစားစွာဖြင့်

ဒေါ်အေးအေးမြင့်
မန်နေဂျင်းဒါရိုက်တာ
**Minor Myanmar Co., Ltd.**



MINOR MYANMAR Company Limited
No.27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar.
Phone : +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax: + 95 1 502 906, 502 907,

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ -၂၀၁၆ ခုနှစ်ဖေဖော်ဝါရီလ ( ၂ ) ရက်

အကြောင်းအရာ။ ။B.O.Tစနစ်ဖြင့်နိုင်ငံတကာအဆင့်မီ ဟိုတယ်အဆောက်အဦများ တည်ဆောက်၍ လုပ်ငန်းဆောက်ရွက်ရန်အဆိုပြုချက်နှင့်စပ်လျဉ်း၍ ဝန်ခံကတိပြုချက်တင်ပြခြင်း။

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ လုပ်ငန်းတည်ထောင်ဆောင်ရွက်နိုင်ရန်အတွက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ခွင့်ပြုမိန့်ထုတ်ပေးနိုင်ပါရန် အဆိုပြုတင်ပြလျှောက်ထားခြင်းဖြစ်ပါသည်၊ ထိုသို့လျှောက်ထားရာတွင် အောက်ပါအတိုင်းဝန်ခံကတိပြုတင်ပြအပ်ပါသည်-

(၁) ကျွန်တော်တို့၏လုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီးနိုင်ငံခြားသားမည်သူတစ်ဦးတစ်ယောက်မျှ ပါဝင်ပိုင်ဆိုင်ခြင်း(လုံးဝ)မှမရှိကြောင်း ဝန်ခံကတိပြုပါသည်။

(၂) ဤအဆိုပြုလုပ်ငန်းများဆောင်ရွက်ရာတွင် လေထု၊ ရေထု၊ မြေထုတို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန် အတွက်လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများကို နိုင်ငံတော်မှ သတ်မှတ်ထားသည့် လုပ်ထုံးလုပ်နည်းများ၊စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၃) အလုပ်သမားတစ်ဦးချင်း၏ လုပ်ခလစာကိုနောက်ဆက်တွဲဇယားဖြင့်ဖော်ပြထားပြီး ၄င်းလစာနှုန်းထားများသည် အမှန်တကယ်ရရှိမည့်လုပ်ခများဖြစ်ပြီး အဆိုပါလစာငွေသည် ကာလဒေသပေါက်ဈေးနှင့် ကိုက်ညီမှုရှိကြောင်း တင်ပြအပ်ပါသည်။

(၄) လစာတစ်နှစ်ကျပ်(၂၀၀၀၀၀၀)နှင့်အထက်ရရှိသောဝန်ထမ်းများ၏ဝင်ငွေခွန်ကိုသတ်မှတ်ထားသောနှုန်းထားများနှင့် အညီပေးဆောင်ရေးအားကုမ္ပဏီမှတာဝန်ယူပါကြောင်းကတိပြုပါသည်။

(၅) C.S.Rရန်ပုံငွေအတွက်နှစ်စဉ်လုပ်ငန်း၏အသားတင်အမြတ်ငွေမှ(၂%)အားသီးသန့်ရံပုံငွေထားရှိသုံးစွဲသွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(၆) လျှပ်စစ်ဓါတ်အားမရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက်အားအသုံးပြုသွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။




# MINOR MYANMAR Company Limited

No.27, Inya Myaing Road, Bahan Township, Yangon, Union of Myanmar.

Phone : +95 1 502 901, 502 902, 502 903, 502 904, 502 905 Fax: + 95 1 502 906, 502 907,


(၇) လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် နိုင်ငံတော်၏ စက်ရုံ၊အလုပ်ရုံ၊ အလုပ်သမား ဥပဒေ အခြေခံစည်းမျဉ်းစည်းကမ်းများကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(၈) ဆောက်လုပ်ရေးလုပ်ငန်းကြောင့်ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်ပေါ်စေရေးအတွက်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးပညာရှင်များနှင့်တိုင်ပင်ခြင်း၊ အကြံဉာဏ်ရယူခြင်းများဆောင်ရွက်သွားပါမည်။

(၉) မြေယာနှင့်ပတ်သက်သည့်နိုင်ငံတော်အစိုးရမှသတ်မှတ်ပြဋ္ဌာန်းထားသည့်စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်။

(၁၀) ခွင့်ပြုမိန့်ရရှိပြီးပါကသက်ဆိုင်ရာဌာနများ၊အဖွဲ့အစည်းများ၏ညွှန်ကြားချက်များဥပဒေစည်းကမ်း များအား လိုက်နာသွားမည်ဖြစ်ကြောင်းနှင့်ခွင့်ပြုမိန့်နှင့်လုပ်ငန်းလိုင်စင်များရယူဆောင်သွားမည်ဖြစ်ကြောင်းကတိပြုပါသည်။

လေးစားစွာဖြင့်

(signature)

ဒေါ်အေးအေးမြင့်

မန်နေဂျင်းဒါရိုက်တာ

**Minor Myanmar Co., Ltd.**

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈ ]

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ ၂၀၁၆ ခုနှစ်ဖေဖော်ဝါရီလ ၂ ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုပါသဖြင့်ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါအချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်၊

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏-

(က)အမည် ဒေါ်အေးအေးမြင့်

(ခ)အဖအမည် ဦးချင်စိုး

(ဂ)နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/လမတ (နိုင်) ၀၂၃၉၁၉

(ဃ)နေရပ်လိပ်စာ အမှတ် (၉၉-အို)၊ သံလွင်လမ်း၊ (၁၀) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။

(င)လူမျိုး၊ဘာသာ မြန်မာ/ဗုဒ္ဓဘာသာ

စ)အဖွဲ့အစည်းအမည် **Minor Myanmar Co., Ltd.**

(ဆ)လုပ်ငန်းအမျိုးအစား လုပ်ငန်းစုံ

(ဇ)အဖွဲ့အစည်းတည်ရှိရာအရပ် အမှတ် (၂၇)၊ အင်းယားမြိုင်လမ်း၊ ရွှေတောင်ကြား (၁) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

၂။ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါကဖက်စပ်ပြုလုပ်မည့်သူများ၏-

(က) အမည် (၁) ..............................

(၂) ..............................

..............................

(ခ) အဖအမည် (၁) ..............................

(၂) ..............................

..............................

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်

(၁) ..............................

(၂) ..............................

(ဃ) နေရပ်လိပ်စာ (၁) ..............................

(၂) ..............................

..............................

(င) လူမျိုး၊ဘာသာ (၁) ..............................

(၂) ..............................

..............................

(စ) အဖွဲ့အစည်းအမည် ..................................

..................................

(ဆ) လုပ်ငန်းအမျိုးအစား ..................................

..................................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ..............................

..............................

( နှစ်ဦးသို့မဟုတ် အဖွဲ့အစည်းနှစ်ခုထက်ပိုပါကသီးခြားစာရွက်တွင်ဖော်ပြပေးရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်လုပ်ငန်းအမျိုးအစား-

(က)ကုန်ထုတ်လုပ်မှုလုပ်ငန်း; B.O.T စနစ်ဖြင့်နိုင်ငံတကာအဆင့်မီဟိုတယ်

တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်း

(ခ)ဝန်ဆောင်မှုလုပ်ငန်း ..................................

..................................

(ကုန်ပစ္စည်းအမည်သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန်)

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ-

( က )နိုင်ငံသားနှင့်နိုင်ငံသားတို့ကအစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

( ခ )အဖွဲ့အစည်းနှင့်နိုင်ငံသားတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

( ဂ )အဖွဲ့အစည်းနှင်အခြားအဖွဲ့အစည်းတို့ကဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့်သို့မဟုတ်ဖွဲ့စည်းမည့်စီးပွားရေးပုံသဏ္ဍာန်-

( က ) တစ်ဦးတည်းပိုင် ..................................

..................................

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း..................................

..................................

(ဂ) လီမိတက်ကုမ္ပဏီ **Minor Myanmar Co., Ltd.**

(ဃ) သမဝါယမအသင်း (အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ)

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟုဖော်ပြ၍ ထည့်ဝင်မည့်မတည်ငွေရင်းအချိုးအစား၊စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏အမည်၊နေရပ်လိပ်စာများနှင့်ရာထူးတို့ကိုပူးတွဲတင်ပြရန်) နောက်ဆက်တွဲ ( ၁ )

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက-

(က) အစုစပ်တို့ကထည့်ဝင်မည့်အစုငွေအချိုးအစားနှင့်ပမာဏ

..................................
..................................

( ခ ) အကျိုးအမြတ်ခွဲဝေမည့်အချိုးအစား

..................................
..................................

( ဂ ) အစုစပ်ဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ ..................................

..................................

( နေရာမလုံလောက်ပါကသီးခြားစာရွက်ဖြင့်ဖော်ပြရန်)

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီဖြစ်ပါက-

(က) ခွင့်ပြုမတည်ငွေရင်း ကျပ် ၅၀၀,၀၀၀,၀၀၀/-

(ခ) အစုရှယ်ယာအမျိုးအစား ကျပ် ၁၀,၀၀၀ တိတိတန်သာမန်အစုရှယ်ယာ (၅၀,၀၀၀)

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ ကျပ် ၁၀,၉၁၁,၀၀၀,၀၀၀/-

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ-

(က) မတည်ငွေရင်းပမာဏ(ထောင်ပေါင်း)

| | ကျပ် | US$ | စုစုပေါင်းကျပ် |
|---|---|---|---|
| (၁) ငွေပမာဏ | ၂၉၆၇၄၃၃ | | ၂၉၆၇၄၃၃ |
| (၂) စက်ပစ္စည်းတန်ဖိုးပမာဏ (နောက်ဆက်တွဲ-၅) | | ၁၆၀. ၃၄ | ၁၉၃၆၀၈ |
| (၃) အဆောက်အအုံများ (နောက်ဆက်တွဲ-၄) | ၆၄၃၂၀၀၀ | | ၆၄၃၂၀၀၀ |
| (၄) ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ(နောက်ဆက်တွဲ-၃) | ၂၁၀၂၆၄ | ၉၂၃. ၀၈ | ၁၃၁၇၉၅၉ |
| | ၉၆၀၉၆၉၇ | ၁၀၈၄. ၄၂ | ၁၀၉၁၁၀၀၀ |

(ခ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့်

| | ကျပ် | အမေရိကန်ဒေါ်လာ |
|---|---|---|
| (၁) စက်ပစ္စည်းများ၊စက်ကိရိယာများ စသည့်ပစ္စည်းတို့၏တန်ဖိုးပမာဏ (နောက်ဆက်တွဲ-၅) | | ၁၆၀၃၄၀ |
| (၂) ဆောက်လုပ်ရေးပစ္စည်းများနှင့်အခြား (အသေးစိတ်စာရင်းပူးတွဲတင်ပြရန်) | | |
| (၃) ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ၏ တန်ဖိုးပမာဏ (နောက်ဆက်တွဲ-၃) | | ၉၂၃၀၇၉ |

(ဂ) တည်ဆောက်မှုကာလ ( ၂ ) နှစ်

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ ( ၁၈၀ ) ရက်

(င) တည်ဆောက်မှုစတင်မည့်အချိန် ခွင့်ပြုမိန့်ရရှိပြီး ရက်ပေါင်း (၁၈၀) အတွင်း

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့်သက်ဆိုင်သောအချက်အလက်များ-

(က) လုပ်ငန်းအမျိုးအစား အခန်း (၈၂) ခန်းပါကြယ်လေးပွင့်အဆင့် နိုင်ငံတကာအဆင့်မီ ဟိုတယ်လုပ်ငန်း

(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုစသည်ဖြင့်ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ- ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ဇီးဖြူကုန်းကျေးရွာ၊ ကွင်းအမှတ် (၂၀၂)၊ မြေကွက်အမှတ် (၄/၅)။

( ဂ) ဆောင်ရွက်ပုံနည်းစနစ် BOT စနစ်

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်-

| အမျိုးအစား | အရေအတွက် |
|---|---|
| ၁။ | |
| ၂။ နောက်ဆက်တွဲ -- ၆-၁ | |
| ၃။ | |

(င) နှစ်စဉ်လျှပ်စစ်ဓါတ်အားလိုအပ်ချက်-

| အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | ၅၀၀ KVA |
| ၂။ ဓါတ်ဆီ/ဒီဇယ်အင်ဂျင်စက်အင်အား | ၁၅၀/၂၅၀/၃၅၀ KVA |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | |
| ၄။ သဘာဝဓါတ်ငွေ့သုံးစက်အား | .............................. .............................. |
| ၅။ ပေးပို့သည့်အခြားအား | .............................. .............................. |

(ရေအား/လေအားစသည်များ)

(စ) နှစ်စဉ်ရေလိုအပ်ချက် ၂၀၄၄၀၀၀ ဂါလံ

(နေ့စဉ်ရေလိုအပ်ချက်ရှိလျှင်ဖော်ပြရန်) တစ်ရက် ၅၆၀၀ ဂါလံ

(ဆ) နှစ်စဉ်လုပ်ငန်းပစ္စည်း/ကုန်ကြမ်းလိုအပ်ချက်

| | အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|---|
| (၁) အဓိကကုန်ကြမ်း | | | | |
| (၁) | | | | |
| (၂) | | | | |
| (၂) အထောက်အကူကုန်ကြမ်း | | | | |
| (၁) | | | | |
| (၂) | | | | |
| (၃) စက်သုံးဆီ/ဓါတ်ငွေ့များ- | | | | |
| (၁) | | | | |
| (၂) | | | | |

(ဇ) အဆောက်အအုံလိုအပ်ချက် နောက်ဆက်တွဲ - ၄

(ဈ) မြေနေရာအမျိုးအစားနှင့် ကာကွယ်ရေးဝန်ကြီးဌာနပိုင်နယ်မြေ

အကျယ်အဝန်းလိုအပ်ချက် ( ၁၁. ၃ )ဧက

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| .................... | | .................... | |
| .................... | | .................. | |

နောက်ဆက်တွဲ - ၇

| | |
|---|---|
| .................... | .................... |
| ...................... | .................. |

(ဋ) ရောင်းချမည့်နည်းစနစ်

၁၀။ နှစ်စဉ်ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုနှင့်စပ်လျှင်းသောအချက်အလက်များ-

| | ခန့်မှန်းခြေ (သန်းပေါင်း) | |
|---|---|---|
| | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲ - ၈ | |

(ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ နောက်ဆက်တွဲ - ၈

(ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ

(ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့်

ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ နောက်ဆက်တွဲ ၇/၈

(င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့်

ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ နောက်ဆက်တွဲ ၇/၈

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင်လိုအပ်မည့်အမှုထမ်းများစာရင်း-

(က) ပြည်တွင်းမှလိုအပ်မည့်ဝန်ထမ်းများ-

<u>အမှုထမ်းအမျိုးအစား</u> ဦးရေ

...........................................
........................

နောက်ဆက်တွဲ - ၁၀

...........................................
........................

(ခ) နိုင်ငံခြားမှလိုအပ်မည့်ကျွမ်းကျင်သူနှင့်အတတ်ပညာရှင်များ-

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
|---|---|---|
| ............ | ............ | .............. |

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့်စပ်လျှင်းသောအချက်များ-

| | ကျပ်ငွေ | | နိုင်ငံခြားငွေ |
|---|---|---|---|
| (က) နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲ ၇/၈ | | |
| (ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲ - ၈ | | |
| (ဂ) နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲ - ၈ | | |
| (ဃ) နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲ - ၂ | | |
| (င) အရင်းကျေကာလ | ( ၁၁ )နှစ်( ၆ )လ | နောက်ဆက်တွဲ - ၁၁ | |
| (စ) အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲ ၁၀-၁၁ | | |
| (ဆ) အလုပ်အကိုင်သစ်များပေါ် ပေါက်လာမည့်အခြေအနေ | နောက်ဆက်တွဲ - ၁၀ | | |

၁၃။ ဆောင်ရွက်ရန်အဆိုပြုချက်နှင့်စပ်လျှင်းသည့်အထောက်အထားများ၊အဆိုပြုတင်ပြသည့်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက်အောက်ဖော်ပြပါအထောက်အထားများကိုပူးတွဲတင်ပြအပ်ပါသည်။

(က) ပရိုဂျက်စာချုပ်မူကြမ်း ( လိုအပ်သည့်ကိစ္စတွင် )

(ခ) လုပ်ငန်းပိုင်းနှင့်ငွေရေးကြေးရေးဆိုင်ရာအထောက်အထားများ

(ဂ) လက်ရှိဖွဲ့စည်းပြီးအဖွဲ့အစည်းဖြစ်ပါကသင်းဖွဲ့မှတ်တမ်းနှင့်သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်းမရှိသေးပါကသင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

(ဃ) လက်ရှိဖွဲ့စည်းပြီးအဖွဲ့အစည်းဖြစ်ပါကလက်ရှိအခြေအနေနှင့်ပြင်ဆင်ဖွဲ့စည်းမည့်အခြေအနေအထောက်အထားများ။

လက်မှတ်၊ . . . . . . . . . . . . .

အမည်၊ ဒေါ်အေးအေးမြင့်

ရာထူး၊ မန်နေဂျင်းဒါရိုက်တာ

**Minor Myanmar Co., Ltd.**

(လျှောက်ထားသူ)

